# အစ္စလာမ့်လမျှားအတွက် ခွသ်ဗဟ်မျှား

**ဟောကြားသူ**

အလ္လာမာဟ် အိဗ်နေ့ နိုဗာသဟ် (ﷺ)

**ပြန်ဆိုသူ**

မော်လာနာ ဟာဖိဇ် ကာရီ မိုဟမ္မဒ် ဖိုင်စဲလ်

အလ်ကောင်ဆရီ (ဝါးခယ်မ)

بسم الله الرحمن الرحيم

# အလ်ဟားဂျ် မော်လာနာ မုဖ်သီ မုဟမ္မဒ် အာစွင်းမ်(နဒ်ဝီ၊ မဇ္ဇာဟေ့ရီ)၏ ရင်တွင်းစကား

## ကျမ်းမြတ်ကုရ်အာန်နှင့် တရားဓမ္မဟောကြားခြင်း

တရားဓမ္မဟောကြားခြင်းသည် လူသားတို့အား သွန်သင်ဆုံးမရန်၊ အောင်မြင်မှုပန်းတိုင်သို့တက်လှမ်းနိုင်စေရန် အကောင်းဆုံး အကြောင်းခံဖြစ်သည်။ ကျမ်းမြတ်ကုရ်အာန်သည် လူသားတို့အား ဆုံးမသွန်သင်ရန်ကျရောက်ခဲ့သည်ဖြစ်ရာ တရားဒေသနာဟောကြားသည့်နမူနာများကို လည်းအကြိမ်ကြိမ်တွေ့ရှိရသည်။

ဟဇရတ်ဒါဝူးဒ်ﷺအား ဟစ်ကဲမသ်နှင့် فصل الخطاب ( ရှင်းလင်းပြတ်သား သောဟောကြားမှု) ချီးမြှင့်ထားကြောင်း၊ ကျွန်ုပ်တို့နဗီတမန်တော်မြတ်(ﷺ)ကို လည်းဟစ်ကဲမသ်နှင့် الموعظة الحسنة (ကောင်းမွန်လှပသော တရားဒေသနာ တော်များ)ဖြင့် အရှင်မြတ်ဘက်ကို ဖိတ်ခေါ်ရန်လမ်းညွှန်ထားခြင်း၊ နဗီတမန်တော်ﷺအပေါင်း၏ ဟောကြားချက်များကိုပြန်လည်ဖော်ပြထားခြင်းတို့သည် တရားဒေသနာဟောကြားနည်းအနုပညာ၏ အခြေခံမူများကို လမ်းညွှန် ထားခြင်းဖြစ်သည်ဟု ဆိုရပါမည်။

## တမန်တော်မြတ် (ﷺ)နှင့်တရားဓမ္မဟောကြားခြင်း

တမန်တော်မြတ် (ﷺ) သည် နဗူဝသ်ရရှိချိန်မှစတင်ပြီး ကွယ်လွန်ချိန်ထိ သက်တော်(၂၃)နှစ်တာအတွင်း ခိုင်မာကျစ်လျစ်ပြီး၊ အလွန်

ပြီးပြည့်စုံလှသော၊ ထိရောက်လှသောတရားဒေသနာတော်များကို ပို့ချခဲ့သည်။ ကျွန်ုပ်တို့အွမ္မသ်သားများ ကိုလည်း ဟောပြောခြင်းအတတ်ပညာစွမ်းရည်စွမ်းပကားများတည်ဆောက်ရန် နှိုးဆော်ထားပေသည်။ إن من البيان لسحرا "အချို့သော တရားဒေသနာ ဟောကြား ခြင်းတို့သည် ညှို့ငင်ဖမ်းစားနိုင်ရန်၊ စွဲဆောင်နိုင်ရန်အစွမ်းထက်သော အရာဖြစ်သည်" ဟူသောမိန့်ကြားချက်များသည်အထက်ပါအချက်အတွက် အကောင်းဆုံး သော ပုံဆောင်ချက်များဖြစ်သည်။

## ခလီဖွာကြီးများနှင့် တရားဓမ္မဟောကြားခြင်း

တမန်တော်မြတ်(ﷺ) ဝဖားသ်ဖြစ်ပြီးနောက် တမန်တော်မြတ်(ﷺ) ၏ အရိုက် အရာဆက်ခံခဲ့သော ခလီဖွာကြီးများ၏ ဟောကြားချက်များသည် ကေယာမသ်တိုင် ရှင်သန်နေမည့် သစ္စာတရားများဖြစ်သည်။

## ဗနူအိုမိုင်ယဟ်ခေတ်မှ တရာဓမ္မဟောကြားခြင်း၏ပုံရိပ်များ

ခလီဖွာကြီးများအုပ်ချုပ်ခဲ့သည့် နှစ်(၃၀)ကြာညောင်းပြီးနောက် (၉၁)နှစ် ကြာအုပ်ချုပ်ခွင့်ရခဲ့သည့် ဗနူအိုမိုင်ယဟ်ခေတ်စတင်လာသည်။ ရာစုနှစ်တစ်စုနီးပါးရှိသည့် ဤခေတ်၌ ဟောကြားရေးနယ်ပယ်တွင် အွမ္မသ်ကို ဦးဆောင်ခဲ့သည့် တရားဟောပညာရှင်များ ထွန်းကားခဲ့သည်။ 'ဟဂ်ျဂျားဂ်ျဗင်န်ယူစွတ်ဖ်(စကဖီ)'၏ ဟောကြားချက်များ၊ သွာရိက်ဗင်န်ဇေယားဒ်သခင်၏ အင်အားပြည့်မောက်နေ သည့် စိတ်ဓါတ်မြှင့်တင်ရေး တရားများသည် ဂန္ထဝင်တွင် စံတင်ထိုက်ပါသည်။

## အဗ္ဗာစီယဟ်ခေတ်၏ တရားဓမ္မအတွက် အလင်းခနေ့စွဲများ

ဗနူအိုမိုင်ယဟ်ခေတ်ပြီးဆုံးသွားပြီးနောက် ပညာ့အလင်းခနေ့စွဲများကို ဆောင်ယူလာသည့် အဗ္ဗါစီယဟ်ခေတ်စတင်ခဲ့သည်။ ပညာရေးဖြင့် ခေတ်မီတိုး တက်သော အင်ပါယာကြီးကို တည်ဆောက်ထိန်းကျောင်းခဲ့သည့် ဟာရူးန်ရရှီးဒ် ဘုရင်ကြီးနှင့်သားတော်ဘုရင်အမီးန်တို့၏ ပညာရေးကို ဦးထိပ်ပန်ဆင်ခဲ့ခြင်းတို့ကြောင့် သမိုင်းတလျှောက် ရဲရဲတောက်ပညာရှင်များ ထွန်းထောက်ခဲ့ကြသည်။ ထိုပညာရှင်များအနက် အေမာမ်အိဗ်နေ့နိုဗာသဟ်သည်လည်း နယ်ပယ်အစုံတွင် ကျွမ်းကျင်လှသည့် သုခမိန်ကြီးတစ်ပါးဖြစ်သည်။

## ခွသ်ဗာဟ် အိဗ်နေ့နိုဗာသဟ်အကြောင်း တစေ့တစောင်း

အေမာမ်အိဗ်နေ့နိုဗာသဟ်သည် ဟစ်ဂျ်ရီ(၆၈၆)ခု၊ ခရစ်နှစ်(၁၂၈၇)ခုနှစ် တွင် အီဂျစ်နိုင်ငံ၊ ကိုင်ရိုမြို့တွင် မွေးဖွားခဲ့သည်။ သခင်သည် ကဗျာလင်္ကာနယ်ပယ်တွင် အလွန်ကျွမ်းကျင်သကဲ့သို့၊ တရားဒေသနာဟောကြားရေးတွင်လည်း ဆရာ တစ်ဆူဖြစ်ခဲ့သည်။ خطبة ابن نباتة ကျမ်းသည် သခင်၏တရားဒေသနာဟောကြား ရေးတွင် ပါရဂူမြောက်တတ်ကျွမ်းကြောင်း သက်သေထူနေသည်။ ထိုကျမ်းတွင် အစ္စလာမ့် (၁၂)လအနက် တစ်လတိုင်းအတွက် ခွသ်ဗာဟ်များကို သတ်မှတ်ဟော ကြားထားသည်။ ခွသ်ဗာပေါင်း (၄၈)ပုဒ်ခန့်ရှိသည်။ ထိုခွသ်ဗာ (ဟောကြားချက်များသည်) အလွန်ပင် အစွမ်းထက်လှပြီး နှလုံးသားများကို နိုးကြားပေးနိုင်စွမ်းရှိ သည့်သစ္စာစကားများဖြစ်သည်။

## မူရင်းအရဗီခွသ်ဗာများမှသည် မြန်မာဘာသာပြန်ဆီသို့

ထိုခွသ်ဗာ(၄၈)ပုဒ်အနက် မုဟာရ်ရမ်လမှစ၍ ဂျူမာဒတ်ဆ်ဆာနီအထိ တစ်လလျှင် ခွသ်ဗာ(၅)ပုဒ်ဖြင့် ခြောက်လအတွက် စုစုပေါင်း ခွသ်ဗာအပုဒ်(၃၀)ကို ကျေးဇူးရှင်ဆရာကြီး ဟဇရသ်မော်လာနာမူစာ (မဇ္ဇာဟော့ရီ)ﷺ က မိမိ၏**"အစ္စလာမ့်အခြေပြ"**အတွဲ(၂)တွင် ပြန်ဆိုရေးသားထားပါသည်။ ကျန်ရှိနေသော (၆)လအတွက်ဟောကြားထားသော ခွသ်ဗာများမှာ မြန်မာဘာသာဖြင့်ပြန်ဆို ထားခြင်းမရှိခဲ့ပါ။

ကျွန်ုပ်၏အစ်မဖြစ်သူ အာလေ့မာဟ်မဟ်မူဒါ (B.sc,chem) သည် မိခင်မွန် **ချမ်းမြေ့ကြည်သာ**ﷺ(သာစည်)မျိုးစေ့ချခဲ့သည့်အပတ်စဉ် အမျိုးသမီးအစီအစဉ်များ တွင် အထက်ပါ ခွသ်ဗာဘာသာပြန်များကို ဖတ်ကြားပြသရာ ကြားနာရသည့် ပရိသတ်တို့သည်လည်း အလွန်ပင် ကြေနပ်နှစ်သက်ကြပါသည်။ ကျန်ရှိနေသည့် (၆)လစာ ခွသ်ဗာများတွင်ပါရှိသည့် တရားရတနာများ၊ စကားလက်ဆောင်များကို လည်းတောင်းတနေကြပါသည်။ ဤကွက်လပ်အား ဖြည့်စွက်ဖြစ်ပေးရန် အစ်မ ဖြစ်သူသည် ကျွန်ုပ်အား ကြိမ်ဖန်များစွာ တိုက်တွန်း တောင်းဆိုခဲ့သော်လည်း အရှင်မြတ်၏အလိုတော်မရှိသေးသောကြောင့် ကျွန်ုပ်အနေဖြင့် မဖြည့်စွက်နိုင်ခဲ့ပါ။ (၃)နှစ်ခန့်ကြာညောင်းလာပြီဖြစ်သော်လည်း အစ်မနှင့်ပရိသတ်၏တောင်းဆိုမှုမှာ ပျောက်မသွားခဲ့ပဲ သစ်လွင်လျက်သာရှိနေခဲ့ပါသည်။

ကျွန်ုပ်၏ ချစ်တပည့်တစ်ဦးဖြစ်သူ ဟာဖိဇ်မော်လဝီ မုဟမ္မဒ် ဖိုင်ဆလ် (အလ်ကောင်ဆရီ-ဂျာမေ့အဟ်အဗူဗကရ်(ﷺ)ကျောင်း ဆရာ၊ တောင်ဆင်ကျုံးဗလီဝင်း၊ မန္တလေးမြို့)အား အရှင်မြတ်က ဤကွက် လပ်ကိုဖြည့်စွက်ပေးရန်လက်ခံ တော်မူခဲ့သည်။ မော်လာနာသည် ကျန် ရှိနေသည့် လများနှင့်ပတ်သက်သည့် ခွသ်ဗာများကို အောက်ပါအတိုင်း ဘာသာပြန်ဆိုပေးခဲ့သည်။ ရဂျဗ်လအတွက် (၄)ပုဒ်၊ ရှအ်ဗာန်လအ တွက် (၂)ပုဒ်၊ ရမ်ဇာန်လအတွက် (၄)ပုဒ်၊ ရှောင်ဝလ်လ အတွက် (၁) ပုဒ်၊ ဇုလ်ကအ်ဒဟ်လအတွက် (၅)ပုဒ်နှင့် ဇုလ်ဟစ်ဂျ်ဂျာလအတွက် (၂) ပုဒ် စုစုပေါင်း ခွသ်ဗာပေါင်း (၁၈)ပုဒ်ကို ဘာသာပြန်ဆိုပြီး သမိုင်းကြွေး တစ်ခု ပေးဆပ်ခဲ့ပါသည်။ အရှင်မြတ် ဤကြိုးပမ်းမှုတွင်ပါဝင်သူ အပေါင်းတို့အား ကောင်း သောအစားများ ချီးမြှင့်ပေးသနားတော်မူပါ စေ။ (အာမီးန်)

အေမာမ်အိဗ်နေ့နိုဗာသဟ်နှင့်ဆရာ၏ကြားတွင် ရာစုနှစ်ပေါင်း (၇၀၀) ကျော်ခြားနားနေခဲ့ပါသည်။ အေမာမ်အိဗ်နေ့နိုဗာသဟ်ကိုယ် တိုင်သည်လည်း အနုပညာရှင်၊ စာဆိုတော်တစ်ဦးဖြစ်သည့်အားလျော် စွာ အရဗီဘာသာဖြင့် စာပန်းချီ ရေးချယ်မှုသည်လည်း အလွန်ပင် ပြောင်မြောက်လှပါသည်။ သခင်၏ရေးဟန်၊ ထိုခေတ်တွင် ရေပန်းစား နေခဲ့သော ဟောကြားဟန်တို့အတွင်းရှိ တိမ်မြုပ် ခိုအောင်းနေသော ခံစားချက်များ၊ ရသများအား ဖလှယ်ရန်မှာ လွယ်ကူသည့် ကိစ္စ မဟုတ် ပါ။ သို့သော်လည်း မော်လာနာ ဖိုင်ဆလ်သည် ကြိုးစားအားထုတ်ပြီး

စာဖတ်သူတို့၏ ရင်တွင်ခံစားချက်များကိုပါ ကူးစက်ပေးသည်မှာ အရှင်မြတ် ချီးမြှင့်ထားသည့် ဉာဏ်ပါရမီပင်ဖြစ်သည်ဟု ဆိုရပါမည်။ အရှင်မြတ် မော်လာနာ၏ သက်တမ်းတွင် သာသနာပြုလုပ်ငန်းများဖြင့် ခမ်းနားစွာ မင်္ဂလာအပေါင်း ခညောင်းစေတော်မူပါစေ။ ဆထက်ထမ်းပိုးတိုးပြီး အွမ္မသ်အတွက် ရေးသားချက်များဖြင့် တနည်း၊ ဟောကြားချက်များဖြင့်တဖုံ အကျိုးပြုနိုင်သည့် အခွင့်အလမ်းများချီးမြှင့်ပေးသနားတော်မူပါစေ။

မူရင်းဟောကြားသည့် ဆရာသခင်ကြီး၊ တစ်ဝက်ကိုဘာသာပြန်ဆို မိတ်ဆက်ပေးခဲ့သည့် ဆရာကြီး၊ ဘာသာပြန်ဆိုပေးသည့် ဆရာသခင်နှင့် စာဖတ် ပရိသတ်အပေါင်းတို့ကိုလည်း နှစ်ဘဝနှစ်ဌာနတွင် ကောင်းသောအစားများ ချီးမြှင့်ပေးသနားတော်မူပါစေဟု ဆုမွန်ကောင်းတောင်းရင်း.........

မုဟမ္မဒ်အာစွင်မ်း (နဒ်ဝီ၊အဇ္ဟလ်ဟစနီ၊မဇွာဟေ့ရီ)

ရှောင်ဝလ်လ ၊ (၁၅)ရက်၊ ဟစ်ဂျ်ရီ(၁၄၄၂)ခု၊

မေလ (၂၇)ရက်၊ ခရစ်နှစ် (၂၀၂၁)ခုနှစ်၊ ကြာသပတေးနေ့

# အေမာမ် အိမ်နေ့နိုဗာသဟ်အကြောင်း တစေ့တစောင်း

❍ အေမာမ်အိမ်နေ့နိုဗာသဟ်၏ အမည်မှာ မုဟာမ္မဒ်အလ်ဂျိ ဖာမီဖြစ်သည်။ ဖခင်၏အမည်မှာလည်း မုဟာမ္မဒ် အလ်ဂျိ ဖာမီပင်ဖြစ်သည်။ သခင်၏ ဂုဏ်ထူးဆောင်အမည်မှာ အဗူဗကရ်ဖြစ်ပြီး ၊ ဘွဲ့ထူးမှာ ဂျမာလွဒ္ဒီးန်းဖြစ်သည်။

❍ သခင်သည် ဟစ်ဂျ်ရီ(၆၈၆)ခု ခရစ်နှစ်(၁၂၈၇)ခုနှစ်တွင် အီဂျစ်နိုင်ငံ၊ ကိုင်ရိုမြို့တွင် ဖွားမြင်ခဲ့သည်။ သခင်သည် အီဂျစ်နိုင်ငံရှိ အကျော်အမော် တရားဟောဆရာကြီး အေမာမ်အဗ်ဒုရ်ရဟီးမ်ဗင်န် နိုဗာသဟ်၏ သားစဉ်မြေးဆက်များ မှဖြစ်သည်။ အီဂျစ်နိုင်ငံကို မမ်လူးက်ဘုရင်များအုပ်ချုပ်သည့်ကာလတွင် ကြီးပြင်းခဲ့သည်။ သက်တော် (၁၃)နှစ်အရွယ်မှပင် စတင်၍ သခင်၏ ပညာဂုဏ်သတင်းများ သင်းပျံ့လာခဲ့သည်။

❍ ဟစ်ဂျ်ရီ (၇၁၅)ခုနှစ်တွင် ဆီးရီးယားနိုင်ငံတွင်နေထိုင်ခဲ့သည်။ ထို့အတူ မတ်စ်ဂျေ့ဒ္ဒေအက္ကစွာ သာယာစည်ပင်ရေးတာဝန်ခံ အဖြစ်လည်း ရွေးချယ်ခံခဲ့ရသည်။ ဟစ်ဂျ်ရီ(၇၆၁)ခုနှစ်တွင် မိမိ၏ဇာတိမြေ ကိုင်ရိုသို့ပြန်သွားခဲ့သည်။

❍ သခင်သည် ကဗျာဆရာတစ်ဦးဖြစ်ပြီး၊ စာပေအနုပညာရှင် တစ်ပါးလည်း ဖြစ်ခဲ့သည်။ တရားဒေသနာဟောကြားရာတွင် အလွန်ပင် ကျွမ်းကျင်လိမ္မာသူဖြစ် ပြီးကျမ်းမြတ်ကုရ်အာန်နှင့်ဟဒီးဆ်တော်များ၊ အစ္စလာမ့်သမိုင်းတို့ကို မှီငြမ်းကိုး ကားခဲ့သည်။

❍ ဟာစ်ဂျ်ရီ (၇၆၈)ခု၊ ခရစ်နှစ်(၁၃၆၆)ခုနှစ်တွင် အီဂျစ်နိုင်ငံ၊ ကိုင်ရိုမြို့၌ပင် အရှင်မြတ်အမိန့်တော်ခံယူခဲ့သည်။

❍ ကဗျာ၊ လင်္ကာ၊ သမိုင်းစသည့်ကဏ္ဍများနှင့်စပ်လျဉ်းသည့် ကမ္ဘာကျော် ကျမ်းပေါင်း (၁၁)ကျမ်းကျော်ကို ရေးသားပြုစုသွားခဲ့သည်။

# ပြန်ဆိုသူ၏ အမှာစာ

အစ္စလာမ်သာသနာတော်၏ အရေးပါလှသော နမားဇ်၊ ရိုဇာ၊ ဟဂ်ျအစရှိသည့် အမိန့်ပညတ်များစွာသည် အစ္စလာမ့်လ၊ နေ့ရက်များနှင့် ဆက်နွယ်နေပါသည်။ ထို့ကြောင့် အစ္စလာမ်သာသနာတော်ကြီး တိမ်ကောမသွားစေရန် မိမိတို့၏ အနာဂတ်မျိုးဆက်သစ်တို့ထံ လက်ဆင့်ကမ်းပေးရန် အရေးကြီးသကဲ့သို့ အစ္စလာမ့်လများ၊ နေ့ရက်များကို လက်ဆင့်ကမ်းထိန်းသိမ်းရန် ထပ်တူထပ်မျှ အရေးကြီးလှပေသည်။

ဂဃနဏ စဉ်းစားကြည့်ပါက အစ္စလာမ့်လများ၊ နေ့ရက်များကို ကျွန်ုပ်တို့ကိုယ်တော်မြတ် (ﷺ) နှင့် ဆွဟာဗာတို့က သုံးစွဲခဲ့ကြပါသည်။ အချို့လအမည်၊ နေ့ရက်အမည်များသည် ကျမ်းမြတ် ကုရ်အာန်နှင့် ဟဒီးစ်တော်များတွင်ပင် အတိအလင်း လာရှိထားပါသည်။ ရှုထောင့်တစ်ခုမှ သုံးသပ်ကြည့်လျှင် ဤအမည်များဖြင့် သုံးစွဲခြင်းသည် ကျင့်သုံးမှုနည်းနေသော စွန္နသ်တော်တစ်ခုကို ပြန်လည်ရှင်သန်စေခြင်းပင် ဖြစ်ပါသည်။ ဤခံစားချက်များကို အရင်းခံထားပြီး ပညာရှင်ကြီးအစ်ဗ်နို့နဗာသဟ်(ﷺ)၏ ခွတ်ဗဟ်အစ်ဗ်နို့နဗာသဟ် ကျမ်းထဲမှ ဆရာသခင်ကြီး အလ်ဟာဂျ်မောင်လာနာ မုဟမ္မဒ်မူစာ (မဇ္ဇာဟေရီ) ပြန်ဆိုပြီးဖြစ်သော အစ္စလာမ့် ပထမခြောက်လ၏ ခွတ်ဗဟ်များ၏ အဆက်ဖြစ်သည့် အစ္စလာမ့် ဒုတိယခြောက်လ၏ ခွတ်ဗဟ်များကို ကျွန်တော့်ဆရာသခင် မွဖ်သီမုဟမ္မဒ် အာဆွင်မ် (နဒ်ဝီ၊ အဗ္ဗလ်ဟာစနီ၊ မဇ္ဇာဟေ့ရီ)၏ ကြီးကြပ်

မှုအောက်မှ အလ္လာဟ်အရှင် စွမ်းအားပေးသလောက် ဘာသာပြန်ဆို ခြင်းဖြစ်ပါသည်။

ဤခွတ်ဗဟ်များထဲမှ ပညာရှင်ကြီးအစ်ဗ်နို့နဗာသဟ်(ﷺ) သည် "လများအနက်မှ အချို့သောလများသည် အချို့လများထက် သာပိုမွန်မြတ်ကြောင်း၊ ထိုလများ၏ နေ့ရက်များအနက်မှ အချို့နေ့ရက်များသည် အချို့သောနေ့ရက်များထက်သာပို မွန်မြတ်ကြောင်း၊ ထိုသို့မွန်မြတ်လှသော လနှင့် နေ့ရက်များတွင် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကို နာခံခြင်းမှာပင် မိမိတို့အချိန်များကို ကုန်ဆုံးရမှာ ဖြစ်ကြောင်း၊ အထူးသဖြင့်ထိုသို့သော အချိန်အခါမျိုးမှာ ဝွန္နဟ်အကုသိုလ်များမှ အထူးတလည် ရှောင်ကြဉ်ရမည် ဖြစ်ကြောင်း၊ တမလွန်ဘဝခရီးအတွက် ဤလောကီကမှ အအ်မလ်ရိက္ခာများကို ကြိုတင်ပြင်ဆင်ရမည်ဖြစ်ကြောင်း၊ ထိုသို့ပြင်ဆင်ခဲ့သူသည် တမလွန်တွင် မျက်နှာပန်းလှမည်ဖြစ်ကြောင်းနှင့် ဤကဲ့သို့သော မွန်မြတ်လှသည့် အချိန်ကာလများတွင် အကုသိုလ်များ၌ နစ်မွန်းခဲ့သူသည် တမလွန်တွင် ပျက်စီးဆုံးရှုံးမှုများနှင့်သာ ရင်ဆိုင်ကြုံတွေ့ရမည်ဖြစ်ကြောင်း"စသည့် အကြောင်းအရာများကိုဖော်ပြထားပါသည်။ အလ္လာဟ်အရှင်ကျွန်တော်မျိုးတို့အားလုံးကို မွန်မြတ်လှသော လနှင့်နေ့အလိုက်ရက်စွဲများတွင် အရှင်ကျေနပ်နှစ်သက်မည့် အအ်မလ်များပြုကျင့်နိုင်စွမ်းပေးသနားတော်မူ၍ ထိုနေ့ရက်များတွင် အကုသိုလ်များမှ အပြည့်အဝ ရှောင်ကြဉ်နိုင်စွမ်းပေးသနားတော်မူပါစေ။ ထို့နောက် အရှင်ချီးမြှင့်တော်မသော ဤနေ့ရက်များ

တွင် အရှင့်အမိန့်နာခံခြင်းဖြင့်သာ အချိန်များကို ကုန်ဆုံးနိုင်စွမ်းပေးသနားတော်မူပါစေ။ ထို့နောက် ဤစာအုပ်ငယ်လေးမှ အလ္လာဟ်အရှင်မွတ်စ်လင်မ်ထုတစ်ရပ်လုံးကို အကျိုးဖြစ်ထွန်းစေတော်မူ၍ ဤစာအုပ်ကို ဖတ်ရှုသူ၊ လိုက်နာသူ၊ ရေးသားသူနှင့် စာအုပ်ဖြစ်မြောက်ရေးတွင် ဝိုင်းဝန်းကူညီသူများအားလုံးကို မြင့်မြတ်တော်မူသော အရှင်မြတ် နှစ်ဌာနလုံးတွင် ကောင်းသော အစားများ ချီးမြှင့်ပေးသနားတော်မူပါစေ။

ဆန္ဒမွန်ဖြင့်.....မုဟမ္မဒ်ဖိုင်ဆွလ်(အလ်ကောင်စရီ)

## အစ္စလာမ့် (၁၂)လ

"ကောန်စင်စစ် လများ၏အရေအတွက်သည် အလ္လာဟ်အရှင်မြတ်ထံ တော်တွင် အလ္လာဟ်အရှင်မြတ်၏ ကျမ်းတော်၌ လာရှိသည့် အတိုင်း မိုးကောင်းကင်များနှင့် ပထဝီမြေကို ထိုအရှင်မြတ် ဖန်ဆင်းတော်မူသည့်နေ့မှစ၍ (၁၂) လမျှသာ ဖြစ်ချေသည်။ ထို(၁၂)လအနက်မှ လေးလသည် ထူးမြတ်ပြီး အထွတ်အမြတ်ထားထိုက်သည့် လများပင်ဖြစ်သည်" (၉-၃၆)

"အေမာမ်ကုရ်သုဗီ (ﷺ) သခင်က ဤအာယသ်တော်မြတ်၏ သတ်ဖ်စီးရ်တွင် အောက်ပါအတိုင်းရေးသားထားသည်။ 'မြင့်မြတ်တော်မူသောအရှင်မြတ်သည် အစ္စလာမ့်လများကို (၁၂)လဟု ရေးယခင်ကပင် သတ်မှတ်ပြီးဖြစ်သည်။ ထိုလများကို ဤနာမများဖြင့် မှည့်ခေါ်ထားသည်။ ထို့နောက် နဗီများပေါ်တွင် ချပေးတော်မူသည့် ကျမ်းများတွင်လည်း ဤအတိုင်းသတ်မှတ်ထားပေသည်။'

ဤအာယသ်တော်တွင် တူညီချက်တစ်ရပ်ကို မိန့်ဆိုထားတော်မူသည်။ အရဗ်လူမျိုးတို့၌ ရှေးအတိတ်ခေတ်မှပင် လုပ်ရိုးလုပ်စဉ်တစ်ရပ်ရှိခဲ့ပေသည်။ ၎င်းတို့သည် (၁၂) လအနက်(၄)လ "ဇုလ်ကအ်ဒဟ်၊ ဇုလ်ဟစ်ဂျ်ဂျဟ်၊ မုဟရ်ရမ်၊ ရဂျဗ်" လကို 'အရှ်ဟုရ်ဟုရွန်မ်' အလေးအမြတ်ထားထိုက်သည့်၊ ထွတ်မြတ်သော လများဟူ၍ မှတ်ယူခဲ့ကြပေသည်။ ထိုလများမှာ "ဇုလ်ကအ်ဒဟ်၊ ဇုလ်ဟစ်ဂျ်ဂျဟ်၊ မုဟရ်ရမ်နှင့်

ရဂျဗ်လများဖြစ်ကြသည်။” ထိုလများတွင် သတ်ဖြတ်ခြင်း၊ သွေးထွက်သံယိုမှုပြုခြင်းများကို အထူးရှောင်ကြဉ်ခဲ့ကြပေသည်။

ဤအတိုင်း ဟဒီးစ်တော်များတွင်လည်း လေ့လာမှတ်သားနိုင်သည်။ ကိုယ်တော် (ﷺ) သည် နောက်ဆုံးဟဂ်ျတွင် အမိန့်ရှိခဲ့သည့်အတိုင်း ဟဇရသ် အဗူဘက်ရဟ်သခင်ကဆင့်ပြန်ခဲ့သည်။ “ရာသီစက်ဝန်းသည် အရှင်မြတ် မိုးနှင့် မြေတို့ကို စတင်ဖန်းဆင်းချိန်ကတည်းက လည်ပတ်လျက်ရှိသည်။ တစ်နှစ်တွင် (၁၂)လရှိသည်။”

أخرجه البخاري في صحيحه:"كتاب بدء الخلق,باب ما جاء سبع أرضين"ر:3197

**အစ္စလာမ့်(၁၂)လသမိုင်း**

ကေလားဗ်ဗင်န်မုရ်ရဟ်၏ လက်ထက် ခရစ်နှစ်(၄၁၂)ခုနှစ်တွင် မက္ကာမြို့၌ လ(၁၂)လ၏ အမည်ကို တစ်မျိုးတည်းသတ်မှတ်ရန် အစည်းအဝေး တစ်ရပ်ဖြစ်ခဲ့သည်။

ထိုသတ်မှတ်ချက်အတိုင်း ကိုယ်တော် (ﷺ) ကလည်း ခေါ်ဝေါ်ခဲ့သည်။ သို့သော် အချို့လများအား အမည်ပေးရာတွင် ရည်ရွယ်ချက်များမတူပေ။

ယခု ထိုလ(၁၂)လ၏ အမည်များကို အမည်ပေးရသည့်ရည်ရွယ်ချက်များ နှင့် တကွ အစဉ်လိုက်တင်ဆက်သွားပါမည်။

**၁။ မုဟာရ်ရမ်လ**

“မုဟာရ်ရမ်” ဆိုသည်မှာ လေးစားထိုက်သော၊ အထွတ်အမြတ်ထားထိုက်သော အရာဟူ၍ ဖြစ်သည်။ (သွေးထွက်သံယို ပြုခြင်းမှ)

ရှောင်ကြဉ်ရသည့် အထွတ်အမြတ်ထားရာ လ'(၄)လအနက် တစ်လ ဖြစ်သောကြောင့် အရဗ်တို့က ဤလကို "မုဟာရ်ရမ်"ဟု အမည်ပေးခဲ့ခြင်းဖြစ်သည်။ အစ္စလာမ့်ခုနှစ်၏ ပထမဆုံးလမြတ်လည်းဖြစ်သည်။

**၂။ ဆွဖရ်လ**

"ဆွဖရ်"ဆိုသည်မှာ အရဗီတွင် 'လူသူကင်းမဲ့ခြင်း'၊ 'လက်ဗလာ' ဖြစ်ခြင်းဟူ၍ ဖြစ်သည်။ ရှေးယခင်အရဗ်တို့၏ အိမ်များသည် ဤလတွင် စစ်တိုက်ရန် ထွက်ရသောကြောင့် လူသူကင်းမဲ့သွားသည်။ အခြားမှတ်တမ်းတစ်ခုအရ အရဗ်တို့သည် ဤလတွင် စစ်မက်တိုက်ခိုက်ရင်း ဥစ္စာလက်ဗလာရှိနေသူများကို ဤအတိုင်းလွှတ်ပေးခြင်းကို အစွဲပြု၍ 'ဆွဖရ်' ဟု အမည်ပေးကြောင်း သိရသည်။

**၃။ ရဗီအွလ်အောက်ဝလ်**

"ရဗီးအ်" ဆိုသည်မှာ အရဗီစာပေတွင် ရွက်ဟောင်းများကြွေ၍ ရွက်သစ်ဝေသော ကာလဟူ၍ ဖြစ်သည်။ နွေဦးပေါက်ရာသီကိုဆိုလိုသည်။ "အောက်ဝလ်"ဆိုသည်မှာ "ပထမ" ဟူ၍ဖြစ်သည်။ လများကို အမည်ပေးစဉ် ဤလသည် အထက်ပါကာလတွင် ကျရောက်ခဲ့သောကြောင့် "ပထမရွက်သစ်ဝေသောလ" ဟုအမည်ပေး လိုက်သည်။

**၄။ ရဗီအွတ်ဆ်ဆာနီ**

"ရဗီအွတ်ဆ်ဆာနီ"ဆိုသည်မှာ ဒုတိယ ရွက်သစ်ဝေသောကာလဟူ၍ ဖြစ်သည်။ ရဗီအွလ်အောက်ဝလ်လမြတ်၏ နောက်တွင် ကျ

ရောက်သောကြောင့် ဤအတိုင်းအမည်ပေးခဲ့ခြင်းဖြစ်သည်။ ဤလကို "ရဗီအွလ်အာခိရ်" ဟုလည်းခေါ်သည်။

**၅။ ဂျုမာဒဟ်အူလာ**

"ဂျုမာဒါ"ဆိုသည်မှာ အရဗီစာပေတွင် "ရေခဲသောလ" ဟူ၍ ဖြစ်သည်။ အမည်ပေးစဉ် ဤလသည် ချမ်းအေးသောဆောင်းဥတုတွင် ကျရောက်သောကြောင့် "ပထမအကြိမ်ရေခဲသောလ" ဟူ၍ အမည်ပေးခဲ့ခြင်းဖြစ်သည်။

**၆။ ဂျုမာဒတ်ဆ်ဆာနီယဟ်**

"ဒုတိယ ရေခဲသောလ" ဟု အဓိပ္ပါယ်ရသည်။ ဤလကို "ဂျုမာဒလ်အာခေရဟ်(သို့) အုခ်ရာ" ဟုလည်း တစ်နည်း ခေါ်ဆိုသေးသည်။

**၇။ ရဂျဗ်**

"ရဂျဗ်"ဆိုသည်မှာ ထွတ်မြတ်ခြင်း၊ ဆိုင်းငံ့ထားခြင်းဟု အဓိပ္ပါယ်ရသည်။ ဤလသည် "အရှ်ဟုရွလ်ဟုရုမ်" (သွေးထွက်သံယို ပြုခြင်းမှ) ရှောင်ကြဉ်ရသည့် အထွတ်အမြတ်ထားရာ (၄)လမှ တစ်လ ဖြစ်သည်။

**၈။ ရှာအ်ဗာန်**

"ရှာအ်ဗာန်" ဆိုသည်မှာ "ပြန့်နှံ့သူ၊ ဖြာထွက်သူ" ဟူ၍ဖြစ်သည်။ ရဂျဗ်လအပြီး မိမိတို့နေအိမ်မှ အနယ်နယ်အရပ်ရပ်သို့ ပြန့်နှံ့သွားခြင်းကို အစွဲပြု၍ "ရှာအ်ဗာန်"ဟု ခေါ်တွင်ခြင်းဖြစ်သည်။

အစ္စလာမ့်ရှုထောင့်အရ ကိုယ်တော်မြတ် (ﷺ) က ဤလကို ရှာအ်ဗာန်ဟု အမည်ပေးရသည့်အကြောင်းအရင်းကို အောက်ပါအတိုင်း အမိန့်ရှိထားသည်။ “ဤလတွင် ရမ်ဇာန်အကြိုသဘောဖြင့် များစွာ သောကောင်းခြင်းများ ဖြာထွက်သည်။” ဟူ၍ ဖြစ်သည်။

## ၉။ ရမသွားန်

“ရမသွားန်”ဆိုသည်မှာ အရဗီစာပေတွင် လောင်ကျွမ်းစေခြင်း ဟူ၍ဖြစ်သည်။ ဤလကို အမည်ပေးချိန်သည် ခြစ်ခြစ်တောက်မှုသော နွေရာသီ ဖြစ်ခဲ့သည်။ ထို့ကြောင့် “ရမသွားန်”လောင်ကျွမ်းစေသောလ ဟုအမည်တွင်သွားသည်။

ဤကဲ့သို့ အမည်ပေးခြင်းပေါ် ဆွဟာဗာသခင်ကြီးများက ကိုယ်တော်မြတ်(ﷺ)ကို မေးလျှောက်ကြရာ ကိုယ်တော်သခင်က “ဤလ သည် လူတို့၏ အကုသိုလ်များကို လောင်ကျွမ်းပစ်စေသည်”ဟု အမိန့်ရှိခဲ့သည်။

## ၁၀။ ရှောင်ဝါးလ်

“ရှောင်ဝါးလ်”ဆိုသည်မှာ “မ’တင်ခြင်း၊ ပိန်ချုံးခြင်း၊ နို့ရည်ခမ်းခြောက်ခြင်း”ဟူ၍ ဖြစ်သည်။ ဤလတွင် ကုလားအုပ်တို့သည် ပိန်ချုံးသွားလေ့ရှိပြီး၊ ကိုယ်ဝန်ရသွားခြင်းကြောင့် နို့ရည်များခမ်းခြောက်လေ့ ရှိသည်။ ဤလ(၁)ရက်နေ့သည် အီဒုလ်ဖိသ်ရ် ဝါကျွတ်အီးဒ်နေ့ဖြစ် သည်။

**၁၁။ ဇုလ်ကအ်ဒဟ်**

"ဇုလ်ကအ်ဒဟ်" ဆိုသည်မှာ "ထိုင်နေခြင်းကို အဖော်ပြုထားသူ" ဟူ၍ဖြစ်သည်။ ဤလသည် "အရှ်ဟုရှုလ်ဟုရုမ်" (သွေးထွက်သံယိုပြုခြင်းမှ) ရှောင်ကြဉ်ရသည့် အထွတ်အမြတ်ထားရာ (၄) လအနက် ပထမဆုံးလဖြစ်သည်။ ဤလတွင် အရဗ်တို့သည် ဟိုဟိုဒီဒီသွားခြင်း၊ စစ်မက်တိုင်ခိုက်ခြင်းများမပြုဘဲ အိမ်တွင်သာ ထိုင်နေကြတော့သည်။ ဤသည်ကို အစွဲပြု၍ ဇုလ်ကအ်ဒဟ်ဟု အမည်ပေးခြင်းဖြစ်သည်။

**၁၂။ ဇုလ်ဟစ်ဂျ်ဂျာဟ်**

"ဇုလ်ဟစ်ဂျ်ဂျာ" ဆိုသည်မှာ "ဟဂျ်ပြုရသည့်လ" ဟူ၍ဖြစ်သည်။ ဤလတွင် ဟဂျ်၏လုပ်ငန်းဆောင်တာများဆောင်ရွက်ရသည်။ ဤလ၏ (၁၀)ရက်မြောက်နေ့သည် ကုရ်ဘာနီအီးဒ်နေ့ဖြစ်သည်။

الجزيرة: أحمد الجنابي

**(အဗူစမ်ဟား မုဖ်သီ မုဟမ္မဒ် အာဆွင်မ် နဒ်ဝီ၊ အဗ္ဗလ်ဟစနီ၊ မဇ္ဇာဟော့ရီ ရေးသားပြုစုသော "ဟစ်ဂျ်ရီခုနှစ် ချစ်မြတ်နိုးပါ" စာအုပ်မှ ကောက်နုတ်တင်ပြပါသည်)**

## ရဂျဗ်လ

## ပထမခွဲသဗဟ်

ချီးမွမ်းထောမနာ ပြုပြုသမျှအပေါင်းသည် အလ္လာဟ်အရှင် တစ်ပါးတည်း အတွက်သာ ဖြစ်ပါသည်။ ထိုအရှင်မြတ်သည် ကတိ သစ္စာ တည်ကြည်တော်မူပြီး ထိုကတိကို ပြည့်ဝအောင် ပြုတော်မူသော အရှင်ဖြစ်ပါသည်။ ထို့နောက် အလ္လာဟ်အရှင်မြတ်၏မြင့်မြတ်မှုကို မည် သူကမျှ နိမ့်ပါးအောင် မပြုနိုင်သကဲ့သို့ အရှင့်၏ ယတိပြတ်ဆုံးချက်များ ကိုလည်း မည်သူကမျှ ပယ်ဖျက်နိုင်စွမ်းမရှိပါ။ ထို့ပြင် အလ္လဟ်အရှင်၏ ပိုင်စိုးမှု၌ ရှယ်ယာဝင် မရှိသကဲ့သို့ ယှဉ်ပြိုင်သူလည်း မရှိပေ။ ကျွန် တော်မျိုးသည် အလ္လာဟ်အရှင်၏ ကြီးကျယ် မြင့်မြတ်မှုကို ရိုကျိုးစွာ ဖြင့် အရှင့်အား ချီးမွမ်းထောမနာ ပြုပါသည်။ ထိုချီးမွမ်းမှုကို သဟဲပြု ၍ အရှင်မြတ်၏ ချီးမြှင့်မြောက်စားမှုကို ကျွန်တော်မျိုးတောင်းခံပါ သည်။

အလ္လာဟ်အရှင်မြတ်မှအပ အခြားယှဉ်တွဲ ခဝပ်ကိုးကွယ်ရာအ ရှင်ဟူ၍ အလျင်းမရှိကြောင်းကို ကျွန်တော်မျိုး သက်သေခံပါသည်။ အရပ်မျက်နှာ အပေါင်းဝိုင်းရံခြင်းမှ ထိုအရှင်သည် ကင်းစင်တောမူပါ သည်။ ထို့နောက် ကိုယ်တော်မြတ် (ﷺ) သည် အလ္လာဟ်အရှင်မြတ်၏ ကျေးကျွန် ဖြစ်ကြောင်းနှင့် လမ်းမှားတွင်မိုက်မဲစွာ ဘဝကိုရှင်သန်နေ သောအွမ္မသ်ထံသို့ စေလွှတ်ခံရသော စေတမန်ဖြစ်ကြောင်းကိုလည်း ကျွန်တော်မျိုး သက်သေခံပါသည်။ ကိုယ်တော်သခင် (ﷺ)က ၎င်း

အွမ္မသ်အား စွန္နသ်တော်များကို သေချာကျနစွာ သင်ကြားပို့ချတော်မူခဲ့ ပါသည်။ ထို့နောက် ၎င်းအွမ္မသ်ကို ဖစ်သ်နာဟ်(ပြဿနာအပေါင်း၊ ဖျား ယောင်းသွေးဆောင်မှုအပေါင်း) ကနေ ကယ်တင်ပြီး ထိုဖစ်သ်နာဟ်များ ကို သတိချပ်ဖို့ရာ မိမိအွမ္မသ်အား အသိပေးခဲ့သည်။ ထို့နောက် မိမိ အွမ္မသ်ကို ညစ်ထေးမှုများမှ သန့်စင်ပေးပြီး မွန်မြတ်သော အွမ္မသ်အဖြစ် ဖြစ်တည်စေခဲ့သည်။ ကိုယ်တော်မြတ်နှင့် ကိုယ်တော်သခင်၏ မိသားစု အပေါ်ဝယ် ရဟ်မသ်မင်္ဂလာ အပေါင်းကျရောက်ပါစေ။

အိုး....အီမာန်သက်ဝင်ယုံကြည်သူအပေါင်းတို့...အလ္လာဟ်အရှင် မြတ်အား သက္က်ဝါဟ် (အကြောက်တရား) ထားရှိကြလေကုန်။ ဤ သက်္ကဝါဟ်တရားသည် မိုအ်မင်န်တို့နှင့် မကွဲမကွာရှိနေသော အဝတ် တန်ဆာကဲ့သို့ဖြစ်သည်။ ထို့ပြင် ၎င်းသည် ရှောင်ကျဉ်သူများ၏ ဆောင် ကြဉ်းရာ ဖြစ်သကဲ့သို့ အလ္လာဟ်အရှင်မြတ်၏ မှာတမ်းချက်လည်း ဖြစ် ပါသည်။ ထို့နောက် အလ္လာဟ်အရှင်မြတ်သည် ၎င်းသက္က်ဝါဟ်တရားကို စွဲမြဲစွာဆုပ်ကိုင်သူအတွက် အကျိုးစဝါးဗ်များ သတ်မှတ် ထားပါသည်။ မိမိ၏ ကျမ်းတော်မြတ်တွင် မွဲသ္ဓကီတို့အတွက် ဤသို့ အကျိုးကျေးဇူး များကို ဖော်ပြထားပါသည်။ "စင်စစ်သော်ကား မည်သူမဆို အလ္လာဟ် အရှင်မြတ်အား ကြောက်ရွံ့ပါမူ ထိုအရှင်မြတ်သည် ထိုသူ၏ ပြစ်မှု ဒုစရိုက်များကို ထိုသူမှ ပပျောက်စေတော်မူမည်။ ထိုမှတစ်ပါး ထိုသူ၏ အကျိုးကျေးဇူးကိုကြီးကျယ်စေတော်မူအံ့သတည်း။"(၆၅-၅)

အိုး.....အလ္လာဟ့်ကျေးကျွန်တို့...မှတ်သား ရင်ဝယ်ပိုက်ကြလေကုန်။ အလ္လာဟ်အရှင်မြတ်သည် အသင်တို့အတွက် မှန်ကန်သောလမ်းနှင့် သမာသမတ်ကျသောလမ်းကို ပြသတော်မူထားပါသည်။ ဤသို့လမ်းပြပေးခြင်းသည် အရှင့်ဘက်တော်မှ အသင်တို့ကို အပိုဆုအနေဖြင့် ချီးမြှင့်ပေးကမ်းခြင်းသာ ဖြစ်ပါသည်။ ထို့နောက် ထိုအရှင်သည် အချို့လများကို အချို့လထက် သာပိုမွန်မြတ်စေတော်မူသည်။ ထို့နောက် ၎င်းလများတွင် စွန္နသ်နှင့် ဖရ်ဇ် အချိန်များကို သတ်မှတ်တော်မူထားပါသည်။ ဤသည် အရှင့်ဘက်တော်မှ အသင်တို့၏ နည်းပါးလှသော အအ်မလ်များကို တိုးပွားစေရန် အလို့ငှာ ဖြစ်ပါသည်။ ထို့ပြင် အသင်တို့၏ ကောင်းမွန်လှသော အအ်မလ်များကို များပြားစေရန် အတွက်ဖြစ်သည်။ ထိုအရာများအားလုံးသည် အသင်တို့အပေါ် အလ္လာဟ်အရှင်ချီးမြှင့်တော်မူသော နေ့အ်မသ်တော်များပင်ဖြစ်သည်။ ကေန်စင်စစ်အလ္လာဟ်အရှင်၏ နေအ်မသ်တော်များသည် ရေတွက်၍ မရနိုင်ပေ။ ထိုနေ့အ်မသ်တော်များနှင့် ပတ်သက်ပြီး အလ္လာဟ်အရှင်မြတ်သည် မိမိ၏ ကျမ်းတော်မြတ်တွင် ဤသို့ မိန့်တော်မူထားပါသည်။ "စင်စစ်သော်ကား အကယ်၍ အသင်တို့သည် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်များကို ရေတွက်ကြသည်ရှိသော် အသင်တို့သည် ယင်းကျေးဇူးတော်များကို(အလျှင်း)ရေတွက်နိုင်ကြမည် မဟုတ်ပေ။ ကေန်မလွဲ အလ္လာဟ်အရှင်မြတ်သည် အလွန်တရာ လွတ်ငြိမ်းချမ်းသာခွင့် ပေးတော်မူသော

အရှင်၊ အလွန်တရာ သနားကြင်နာ ညှာတာတော်မူသော အရှင်ဖြစ်တော်မူပေသတည်း"

သတိချပ်ကြလေကုန်......မုချဤလမြတ်သည် မွန်မြတ်သောလဖြစ်သကဲ့သို့ ထိုလတွင် စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ခြင်းကို ဟရာမ်အဖြစ် သတ်မှတ်ခံ ထားရသောလလည်းဖြစ်ပါသည်။ ထိုလကို ဂျာဟေလီယသ် (အမှောင်) ခေတ်မှာရှိသူတို့က အထွတ်အမြတ်ထားကြသကဲ့သို့ အစ္စလာမ်သာသနာတော်ကလည်း ၎င်းလကို မွန်မြတ်သော လအဖြစ် သတ်မှတ်တော်မူထားပါသည်။ ထို့ပြင် အလ္လာဟ်အရှင်မြတ်သည် မွန်မြတ်လှသော လသုံးလ (ရဂျဗ်လ၊ ရှာဗာန်လ၊ ရမသွာန်လ)ကို ၎င်းလဖြင့် အစပြု ဖွင့်လှစ်တော်မူခဲ့သည်။ ပြီးနောက် ဤရဂျဗ်လကို အချို့လများထက် သာပိုထွတ်မြတ် စေလေသည်။ ဤရဂျဗ်လသည် ဗရ်ကာသ်လ၊ ဖစ်သ်နာဟ်ဒုက္ခ များကင်းစင်သောလအနက်မှ ပထမဦးဆုံးလ ဖြစ်လေသည်။ ထို့နောက် ၎င်းလသည် ဗရ်ကာသ်မင်္ဂလာအဖြာဖြာနှင့် ပြည့်နှက်နေသော အလ္လာဟ်အရှင်၏လ (ရှာဟ်ရွလ္လာဟ်) ဖြစ်ပါသည်။ ထိုလတွင် လူတို့အပေါ်ဝယ် အလ္လာဟ်အရှင်မြတ်ဘက်တော်မှ ဗရ်ကာသ်မင်္ဂလာအပေါင်း ခညောင်းပါသည်။ ထိုလတွင် အပြစ်ဂွန္နဟ်မှ ရှောင်ကျဉ်သူများကို အလ္လာဟ်အရှင်ဘက်တော်မှ အကျိုးစဝါးဗ်များ ဆတိုးချီးမြှင့်တော်မူထားပါသည်။ ထို့အတွက်ကြောင့် အလ္လာဟ်အရှင် ကိုယ်တော်တိုင် အထွတ်အမြတ်ထားသော ဤလကို အသင်တို့သည်လည်း အထွတ်အမြတ်ထားကြလေကုန်။ ပေါ်ပေါ်တင်

တင် သော်လည်းကောင်း၊ ဖုံးကွယ်၍သော်လည်းကောင်း အပြစ်ကျူး လွန်ခြင်းမှ အလွှာဟ်အရှင်ကို အရက်တရားထားရှိ ကြလေကုန်။ ကျူးလွန်မိခဲ့သော အပြစ်များအတွက် မိမိဖန်ဆင်းရှင်ထံပါးတွင် လွတ် ငြိမ်းချမ်းသာခွင့် တောင်းခံပါလေ။ ထို့နောက် အနာဂတ်တွင်လည်း အ ပြစ်ဝွန္နဟ်မကျူးလွန်မိအောင် မိမိကိုယ်မိမိ သတိရှိရှိ ရှင်သန်ကြပါလေ။ ဤလတွင် အပြစ်ကျူးလွန်သူကို အလွှာဟ်အရှင်မြတ်က ဆိုင်းငံ့ခြင်းမ ပြုဘဲ တစ်မုဟုတ်ချင်း အရေးယူတော်မူလေသည်။ ထို့အတွက်ကြောင့် ပင် ဤလမျိုး၌ အတင့်ရဲကာ မိုက်မဲပြီး အပြစ်ကျူးလွန်သူသည် ပျက်စီး ဆုံးရှုံးလေစွ။ ဤသူသည် အပြစ်ကျူးလွန်ပြီး နှစ်ဘ၀ နှစ်ဌာန အောင် မြင်မှု၏အိပ်မက်ကို မက်နေလေသည်။ ထို့ပြင် မိုက်မဲစွာ အပြစ်များကို ကျူးလွန်ပြီး ဆုံးမစကားမှန်သမျှကို ကျောခိုင်းလေသည်။ ဤမွန်မြတ် လှသောလ၏ တစ်လလုံးပင်မဆိုထားနှင့် တစ်ရက်မှာပင် ကောင်းမှု ကုသိုလ်များ ကျင့်ကြံမှု မပြုပေ။ နောက်ဆုံးတွင် ၎င်းသူထံသို့ သေခြင်း တရား ရောက်ရှိလာခဲ့လေပြီ။ ၎င်းသူ ပြုကျင့်ခဲ့သည့် မကောင်းမှု အကု သိုလ်များကို ၎င်း၏ လည်ဂုတ်တွင် ချိတ်ဆွဲ ခံရလေပြီ။ ထိုအခါကျမှ အမှားဝန်ချ တောင်းပန်လေတော့သည်။ မည်သို့ပင် ၎င်း၏ ဝန်ချ တောင်းပန်မှုကို လက်ခံခြင်းခံရမည် မဟုတ်ပေ။ သို့သာမက ၎င်းသည် ကောင်းမှုများ ပွားများရန်အတွက် လောကကို တဖန်ပြန်လာရန် တောင်းခံလေသည်။ အဘယ်သို့ ၎င်းသည် တတ်စွမ်းနိုင်မည်နည်း? ၎င်းသူနှင့် ၎င်းသူတမ်းတသောအရာ၏ ကြားတွင် သေခြင်းတရားကြီး

က ကန့်လန့်ကာ ချလိုက်လေပြီ။ အလ္လာဟ်အရှင်၏ အမိန့်တော်များကို ဦးထိပ်ပန်ဆင်သောသူများ၊ အလ္လာဟ်အရှင်၏ အမိန့်ကိုနာခံပြီး နှစ်ဘဝ နှစ်ဌာနအောင်မြင်သွားကြသူများ၊ သူတော်စင်သူတော်မြတ်များ၏ အဆင့်အတန်းများကို မျက်ဝါးထင်ထင်မြင်တွေ့ခဲ့ရပြီး မိမိပြုခဲ့သော မကောင်းမှုများ၊ မိမိဖြုန်းတီးခဲ့သော အချိန်များ အပေါ် နောင်တရကာ အမှားဝန်ချတောင်းပန်သူသည် အလွန်ပင် နဖူးစာ ကောင်းလေစွ။ ထို့နောက် အကြင်သူတော်စင်ကြီးများက အလ္လာဟ်အရှင်၏ အမိန့်များကို ဦးထိပ်ပန်ဆင်ခြင်းနှင့် ပတ်သက်၍ အရှင်ကိုယ်တော်တိုင် မိမိကျမ်းတော်မြတ်တွင် ဤသို့ အမိန့်ရှိတော်မူထားပေသည်။ "အကြင်ကဲ့သိုသော ယောကျ်ားတို့သည် ထိုယောကျ်ားတို့အား မည်သည့်ကုန်သွယ်မှုနှင့် မည်သည့် ရောင်း(ဝယ်ဖောက်ကား)မှုမျှပင် အလ္လာဟ်အရှင်မြတ်အားအောက် မေ့တသခြင်းမှလည်းကောင်း၊ (ဆွလာဟ်) ဝတ်ပြုမှုကို ဆောက်တည်ခြင်းမှ လည်းကောင်း၊ (ဇကာတ်) ပေးဆောင်ခြင်းမှလည်းကောင်း၊ အာရုံပြောင်းစေခြင်း မရှိပေ။ ထိုယောကျ်ားတို့သည်ကား စိတ်နှလုံးများနှင့် မျက်စိများ ယောက်ယက်ခပ်နေမည့် နေ့ကို ကြောက်ရွံ့စိုးရိမ်လျက် ရှိကြကုန်၏" (၂၄–၃၇)

အလ္လာဟ်အရှင်မြတ် ကျွန်တော်နှင့် အသင်တို့အားလုံးကို ထို့သို့လမ်းမှား ခြေချော်ခြင်းမှ ထိမ်းသိမ်းတော်မူပြီး အအ်မလ်မပြုဘဲ မျှော်လင့်ချက်သက်သက် ထားသူများအနက်မှ မဖြစ်စေရန်နှင့် အအ်မလ်များကို ကြိုးကြိုးစားစား လုပ်သူများအနက်မှ ပြုပေးသနားတော်မူပါ

စေ။ ထို့နောက် သံဝေဂယူသူတို့အတွက် အဖိုးအတန်ဆုံး ဆုံးမစကားမှာ အလ္လာဟ်အရှင်မြတ်၏ မုက္ခပါဋ္ဌ်တော်ပင်ဖြစ်လေသည်။ "ထူးမြတ်သော လ(ကိုလေးစားခြင်း)သည် ထူးခြားသော လ (ကိုလေးစားခြင်း) အပေါ်၌ တည်ရှိပေသည်" (၂_၁၉၄)

## ရဂျဗ်လ

## ဒုတိယ ခွသ်ဗဟ်

ချီးမွမ်းထောမနာ ပြုခြင်းအပေါင်းသည် အလ္လာဟ်အရှင်မြတ် တစ်ပါးတည်း အတွက်သာ ဖြစ်ပါသည်။ ထိုအရှင်မြတ်သည် မိုးကောင်းကင်ကို တိုင်မပါဘဲ ဖန်ဆင်းတော်မူလေသည်။ ထို့နောက် အကြင်အရှင်မြတ်သည် လူသားကို ဖန်ဆင်းတော်မူသည်။ တဆက်တည်းမှာပင် ၎င်းလူသားကို အချိုးအစား ပြေပြစ်အောင် ဖန်ဆင်းလေသည်။ ၎င်းနောက် လူသားအတွက် ကောင်းကျိုး ဆိုးကျိုးများကိုလည်း အလ္လာဟ်အရှင်မြတ်က ၎င်းအား အသိပေး သင်ကြားပေးတော်မူသည်။ ထို့ပြင် အလ္လာဟ်အရှင်မြတ်သည် မိမိကို အမိန့်နာခံသူနှင့် အမိန့်ဖီဆန်သူကိုလည်း အကြွင်းမဲ့သိတော်မူလေသည်။ ထို့နောက် အလ္လာဟ်အရှင်သည် ၎င်းလူသား၏ ဗီဇနှင့် သဘာဝကို ကွဲပြားခြားနားစွာ ဖန်ဆင်းထားတော်မူလေသည်။ သို့မှသာ ဤဖန်ဆင်းမှုသည် အရှင်တစ်ပါးတည်းတည်ရှိမှုကို ဖော်ညွှန်းပြသနေမည်ဖြစ်ပါသည်။ ကျွန်တော်မျိုးသည် အလ္လာဟ်အရှင်မြတ်ကို အရှင့်နှင့် ထိုက်သတ်တော်မူသည့် အတိုင်းချီးမွမ်းထောမနာ ပြုပါသည်။ ထို့နောက် အခက်အခဲ ဒုက္ခ ပေါင်းစုံကို လွယ်ကူစွာ ကျော်လွှားနိုင်ရန် အရှင်မြတ်ထံတော်ပါးမှ အကူအညီတောင်းခံပါသည်။ ထို့ပြင် ပျက်စီးဆုံးရှုံးစေမည့်ပြစ်မှုများမှ အရှင်မြတ်ထံတော်ပါးတွင် လွတ်ငြိမ်းချမ်းသာခွင့် တောင်းခံပါသည်။ နောက်ဆုံးအနေနှင့် ကျွန်တော်မျိုးသည် ကိစ္စရပ်တိုင်းနှင့်ပတ်သက်၍ အရှင့်ထံ

တော်ပါးတွင် အကူအညီတောင်းခံပါသည်။ ထိုအရှင်သည် သာလျှင် အကောင်းမွန်ဆုံး အကူအညီပေးတော်မူသော အရှင် ဖြစ်ပါ သည်။

နှလုံးသည်းပွတ်အတွင်းမှ လှိုက်လှိုက်လှဲလှဲ အလ္လာဟ်အရှင်မြတ်သည် တစ်ပါးတည်း တည်ရှိတော်မူကြောင်းနှင့် ထိုအရှင်နှင့်ယှဉ်တွဲ ကိုးကွယ်ရာ အရှင်မရှိကြောင်းကို ကျွန်တော်မျိုး သက်သေခံပါသည်။ ထို့နောက် တမန်တော်မြတ် (ﷺ) သည် အကောင်းဆုံး အွမ္မသ်ထံသို့ စေလွှတ်ခြင်းခံရသော နဗီစေတမန် ဖြစ်ကြောင်းကို ကျွန်တော်မျိုး သက်သေခံပါသည်။ အလ္လာဟ်အရှင်မြတ်သည် ထိုနဗီတမန်တော်ကို အကြောင်းခံပြီး အွမ္မသ်၏ အခက်အခဲဒုက္ခများကို ဖယ်ရှားပေးတော်မူသည်။ တစ်ဆက်တည်းမှာပင် ထိုတမန်တော်ကို အကြောင်းခံပြီး ၎င်းအွမ္မသ်အပေါ်ဝယ် မိမိ၏ နေ့အ်မသ်တော်ကို ပြီးပြည့်စုံစေတော်မူလေသည်။ ကိုယ်တော်မြတ် အပေါ်ဝယ် မလာအေကဟ် ကောင်းကင်တမန်တော်များနှင့် အလ္လာဟ်အရှင်မြတ်၏ ကောင်းချီးမင်္ဂလာပို့သမှုများ ကျရောက်ပါစေ။

အိုး...အီမာန်သက်ဝင်ယုံကြည်သူအပေါင်းတို့......... အသင်တို့အနက်မှ ပြစ်မှုများမှ ရှောင်ကျဉ်ရန် ရည်သန်သူသည် ဤလမှာပင် ရှောင်ကျဉ်မှုကို စတင်ပါ။ ဤလသည် ပြစ်မှုများမှ ရှောင်ကျဉ်ရန် အကောင်းဆုံး လပင် ဖြစ်ပါသည်။ အသင်တို့ အနက် အပြစ်များမှ အမှားဝန်ချတောင်းပန်ရန် ရည်သန်ထားသူသည် ဤလမှပင် စတင် အမှားဝန်ချတောင်းခံပါလေ။ ထို့နောက် သေခြင်းတရားအတွက် အသင့်ပြင်မည့်သူ

သည်လည်း ဤလမှပင် စတင်ပါလေ။ ဤလသည် သောင်ဗဟ် (အမှား ဝင်ချတောင်းပန်သည့်)လ၊ ကျူးလွန်မိခဲ့သည့် ပြစ်မှုများအပေါ် နောင် တရ ရမည့်လဖြစ်ပါသည်။ ၎င်းနောက် ဆွဒကာဟ် (အလှူအတန်း ပြုရမည့်) လ၊ ဆွေမျိုးအချင်းချင်း အဆက်အသွယ်ပြုလုပ်ရမည့်လ၊ မွန် မြတ်သောလ (စစ်မက်ပြိုင်ဆိုင်တိုက်ခိုက်ခြင်းမပြုပိုင်သည့်) လေးလအ နက်မှ တစ်လပင် ဖြစ်သည်။ ထို့နောက် ဤလသည် ကျူးလွန်ခဲ့သော အပြစ်များကြောင့် ရောက်ရှိလာမည့် ဘေးဒုက္ခများမှ ဖယ်ရှားခံရသည့် လဖြစ်သည်။ ထို့ပြင် ဤလသည် အဆင့်အတန်းအရာတွင် အလွန်ပင် ကြီးမြတ်ပြီး မွန်မြတ်သော လလည်းဖြစ်သည်။ ဤလတွင် ကောင်းမှု ပြုလျှင် များမြောင်စွာ အကျိုးစဝါးဗ်ရရှိ သကဲ့သို့ ပြစ်မှုဒုစရိုက်ကျူး လွန်လျှင်လည်း ကြီးလေးသော အပြစ်ရရှိပါသည်။ ထိုကဲ့သို့လမျိုးတွင် မိမိကျူးလွန်ခဲ့မိသော အပြစ်အပေါ် နောင်တရ၍ ငိုကြွေးသူမရှိကြ ပေလော့ (သို့) မိမိ၏ မကောင်းသော လုပ်ရပ်မှ ရပ်တန်းကရပ်မည့်သူ မရှိပေသလော့ (သို့) အအ်မလ်မပြုဘဲ မျှော်လင့်ချက်သက်သက်ထား ခြင်းမှ မိမိကိုယ်ကို ထိန်းသိမ်းပြုပြင်သူ မရှိကြပေသလော့ (သို့) အလ္လာဟ်အရှင်အား ကြောက်ရွံ့ပြီး အရှင့်၏ အေဗာဒသ်၌သာလျှင် နစ် မွန်မည့်သူ မရှိကြပေသလော့။ ဤလသည် တောင်းခံသူ၏ တောင်းခံမှု ကို ပယ်ချခြင်းခံရမည် မဟုတ်သော လဖြစ်ပေသည်။ ထို့နောက် ဤလ တွင် အလ္လာဟ့်ထံတော်ပါးမှ မျှော်လင့်ချက်ထားသူသည် လက်မဲ့မပြုခံရ မည့် လဖြစ်သည်။ ထို့နောက် ဤလတွင် အအ်မလ်ကြိုးစားသူက ဆုံး

ရှုံးခြင်းနှင့် ရင်ဆိုင်ရမည် မဟုတ်သလို အလ္လာဟ်အရှင့်ကို မေ့လျော့နေသူသည်လည်း အရေးယူခံရမှုမှ ဆိုင်းငံ့ခံရမည် မဟုတ်သည့် လဖြစ်ပေသည်။

အအ်မလ်ကျင့်ကြံအားထုတ်သည့် ကိုယ်ခန္ဓာများ၊ အလ္လာဟ်အရှင်၏ ဇိကိရ်တော်ဖြင့်စိုစွပ်နေသည့် နှုတ်ခမ်းအစုံများ၊ အလ္လာဟ်အရှင့်၏ အမိန့်နာခံပြီး ဆာလောင်မွတ်သိပ်မှုကို ခါးစည်းခံကြသည့် ဝမ်းဗိုက်များ၊ အရှင့်ကို ကြောက်ရွံ့ပြီး မျက်ရည်ကျကြသည့် မျက်ဝန်းအစုံများ၊ ရိုကျိုးစွာ ဦးညွှတ်ကြသည့် လည်ဂုတ်များ၊ အလ္လာဟ်အရှင်ပေးသော တာဝန်များကို အတက်နိုင်ဆုံးထမ်းရွက်ရင်း အရှင့်ကို ကြောက်ရွံ့နေသူများ၊ မိမိတို့၏ ပြုခဲ့သော မကောင်းမှုများကြောင့် အရေးယူခံရမည်ကို စိုးရိမ်နေသူများ၊ မိမိတို့ အပြစ်များအား အလ္လာဟ်အရှင် ပလပ်ပေးရန် အရှင့်ထံ ငိုကြွေးခယ တောင်းခံနေသူများအဘယ်မည်နည်း? အသင်တို့သည် လာမည့််နှစ်၌ သက်ရှိထင်ရှား နေထိုင်ရမည်ဟူ၍ ယုံကြည်နေကြ ပါသလော့? သို့မဟုတ် ရုတ်တရက် ရောက်လာမည့် သေခြင်းတရားကို စိတ်ချစွာ အေးဆေးတည်ငြိမ်စွာနှင် စောင့်နေကြပါသလော့? မှတ်သားကြလေကုန်.... သေခြင်းတရားကို မည်သည့်အရာကမျှ တားဆီးနိုင်မည် မဟုတ်သလို ဆုံးရှုံးလိုက်ရသည့် အခွင့်အရေးကိုလည်း ပြန်လည် ရယူလို့ရမည် မဟုတ်ပါဘူး။ ယခုအခါ လူသားသည် ဆင်ခြေများမှအပ မည်သည့်အရာမျှ မတက်စွမ်းနိုင်တော့ပေ။ ကေန်စင်စစ် လောကီသက် တမ်းဆိုသည်မှာ လက်လွတ်အဆုံးအရှုံးခံလို့မရ

သော အခွင့်အရေးပင်။ ထို့နောက်မှာဖြင့် မှောင်မိုက်လှသော ကဗရ်ကျင်းနှင့် ထိတ်လန့်ဖွယ်ကောင်းသော ကေယာမသ်နေ့ (ကမ္ဘာ့လူသားထု တစ်ရပ်လုံး စုရုံးရမည့်နေ့) ပင်ရှိပါသည်။ ထို့ကြောင့် ဤလောကီတွင် အပတ်တကုတ် ကြိုးစားခဲ့သူသည် နောင်တမလွန်တွင် အောင်မြင်မည်ဖြစ်ပြီး ဤလောကီတွင် ပြစ်မှုများကျူးလွန်၍ ပျော်ပိုက်နေသူသည် နောင်တမလွန်တွင် ဆုံးရှုံးမှုအပေါင်းနှင့် ရင်ဆိုင်ကြုံတွေ့ရမည် ဖြစ်ပါသည်။

အိုး....အလ္လာဟ်အရှင်၏ဗန္ဒဟ် (ကျေးကျွန်)အပေါင်းတို့....ပျက်စီးရာ ပျက်စီးကြောင်းဖြစ်စေမည့် လမ်းအသွယ်သွယ်ကို လျှောက်လှမ်းခြင်းမှ မိမိတို့ကိုယ်မိမိ ရှောင်ကျဉ်ကြလေကုန်။ ဤလမ်းသည် ၎င်းပေါ်၌လျှောက်လှမ်းသူကို ဂျဟန္နမ်စောင့် ကောင်းကင်တမန်ဖြစ်သည့် (မာလစ်က်)ဆီ ပို့ဆောင်ပေး လေသည်။ ထို့ပြင် ကာဖိရ် သွေဖည်ငြင်းဆန်သူများ၊ မိုနာဖစ်က် (အစွလာမ့်အယောင်ဆောင်)များ လားရာ ဌာနီကိုလည်း ပို့ဆောင်ပေးလေသည်။ အလ္လာဟ်အရှင် ကျွန်တော်နှင့် အသင်တို့အားလုံးကို ဤမကောင်းမှုဆီပို့ပေးသောလမ်းအသွယ်သွယ်မှ ထိန်းသိမ်းပေးပြီး ၎င်းမကောင်းမှုများ၏ လားရာမှ လွတ်ငြိမ်းချမ်းသာခွင့်ပေးသနားတော်မူပါစေ။

ရေးသားခံထားရသည့် အရာများ၊ ပြောဆိုခြင်းခံထားရသည့် စကားလုံးများ အနက်မှ ခိုင်မာတိကျဆုံး အကောင်းမွန်ဆုံးအရာမှာ အရာခပ်သိမ်းကို ဖန်ဆင်း မွေးမြူစောင့်ရှောက်တော်မူသော အလ္လာဟ်

အရှင်၏ မုက္ခပါဠ်ဠေတော်ပင် ဖြစ်ပါသည်။ "ကေန်စင်စစ် လများ၏ အရေ အတွက်သည် အလ္လာဟ်အရှင်မြတ်၏ အထံတော်တွင် အလ္လာဟ်အရှင် မြတ်၏ ကျမ်းတော်၌ လာရှိသည့်အတိုင်း မိုးကောင်းကင်များနှင့် ပထဝီ မြေကို ထိုအရှင်မြတ် ဖန်ဆင်းတော်မူသည့်နေ့မှ စ၍ ဆယ့်နှစ်လမျှသာ ဖြစ်ချေသည်။ ၎င်း(ဆယ့်နှစ်လ)အနက်မှ လေးလသည် ထူးမြတ်သော လများပင် ဖြစ်ကြပေသည်။ ဤသည် ဖြောင့်မတ် မှန်ကန်သော (ဒီန်) သာသနာတော်က (ညွှန်ကြားပြသသောလမ်းစဉ်)ပင် ဖြစ်လေသည်။ သို့ဖြစ်ပေရာ အသင်တို့သည် ၎င်း(လများ) နှင့် စပ်လျဉ်း၍ မိမိတို့ကိုယ် ကို နှိပ်စက်ကလူ မပြုကြကုန်လင့်။ ၎င်းပြင် အသင်တို့သည် (မုရှ် ရစ်က်) အားလုံးတို့ကို ၎င်းတို့သည် အသင်တို့ အားလုံးတို့အား တိုက်ခိုက်ကြသကဲ့သို့ပင် တိုက်ခိုက်ကြလေကုန်။ ထို့ပြင် ကေန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် သူတော်စင်အပေါင်းတို့နှင့်အတူ ရှိတော်မူ ကြောင်း အသင်တို့သည် ကောင်းစွာ မှတ်ယူကြလေကုန်" (၉-၃၆)

## ရဂျဗ်လ

## တတိယ ခွသ်ဗဟ်

ချီးမွမ်းထောမနာပြုခြင်း အပေါင်းသည် အလ္လာဟ်အရှင်မြတ် တစ်ပါးတည်းအတွက်သာ ဖြစ်ပါသည်။ ထိုအရှင်မြတ်သည် အရာခပ်သိမ်းကို စံနမူနာ မရှိဘဲ ဖန်ဆင်းတော်မူလေသည်။ ထို့နောက် မိမိဖန်ဆင်းတော်မူထားသည့် အရာအားလုံးကို မိမိအလိုတော်အတိုင်း သက်ဒီးရ် (ချင့်ချိန်၍ ) သတ်မှတ်တော်မူလေသည်။ ထို့ပြင် တဆက်တည်းမှာပင် လူသားကို မိမိအား ခဝပ်ဆည်းကပ်ရန် တာဝန်ပေးတော်မူလေသည်။ ထို့နောက် မိမိအား အမိန့်နာခံသူတို့ကို မှားယွင်းသူတို့၏လမ်းမှ ကယ်တင်စောင်မတော်မူလေသည်။

ကျွန်တော်မျိုးသည် အလ္လာဟ်အရှင်မြတ်ကို စဉ်ဆက်မပြတ် ချီးမွမ်းထောမနာ ပြုတော်မူပါသည်။ ထို့နောက် နှလုံးသည်းပွတ် အတွင်းမှ အလ္လာဟ်အရှင်မြတ်တစ်ပါးတည်း တည်ရှိကြောင်းကို မြွက်ဟပါသည်။ ထို့နောက် တမန်တော်မြတ် (ﷺ) သည်အလ္လာဟ်အရှင်၏ အစေတမန်ဖြစ်ကြောင်းကို ကျွန်တော်မျိုး သက်သေခံပါသည်။ အလ္လာဟ်အရှင်သည် ၎င်း စေတမန်တော်ကို ပြီးပြည့်စုံသော ဉာဏ်အမြော်အမြင်များဖြင့် စေလွှတ်တော်မူခဲ့ လေသည်။ ထို့နောက် မိမိ၏နေ့အ်မသ်တော်များနှင့် ကိုယ်တော်သခင့် (ﷺ)ကို ကြီးမြတ်စေပြီး ကမ္ဘာ့လူသားထုတစ်ရပ်လုံးကို ၎င်းတမန်တော်၏ ရှေ့ဝယ် ရိုကျိုးခယစေတော်မူလေသည်။ ထို့အပြင် ကိုယ်တော်မြတ် (ﷺ) အား ကအ်ဗဟ် ဝတ်ကျောင်း

တော်ကို စတည်းချရာ အဖြစ် အပ်နှင်းတော်မူခဲ့လေသည်။ သို့ရှိရာ ကိုယ်တော်သခင်သည် အီမာန်သက်ဝင်ယုံကြည်မှုမပြုဘဲ ရုပ်ထုဆင်းတု ကိုးကွယ်သများကို အလ္လာဟ်အရှင်ချီးမြှင့်ထားသော အထောက်အထားများနှင့် ချေပတော်မူလေသည်။ အခက်အခဲများကြားမှ အွမ္မသ်ကို ကယ်တင်ပြီး အရာရာတိုင်း၊ အခြေအနေတိုင်းတွင် ၎င်းအွမ္မသ်ကို လမ်းမှန်ပေါ်သို့ ရောက်အောင် တည့်မတ်ပေးတော်မူသည်။ ဤသို့ဖြင့် အွမ္မသ်အတွင်း အီမာန်သည် ခိုင်မြဲလာခဲ့သည်။ ၎င်းနောက် အလ္လာဟ်အရှင့်အပေါ် ယုံပုံအားကိုးမှုသည်လည်း အွမ္မသ်ထုအတွင်း ကိန်းအောင်းလာခဲ့သည်။ ထို့ပြင် လမ်းမှားနေသူများကလည်း မွန်မြတ်သူများ လျှောက်လှမ်းရာ လမ်းပေါ်သို့ ရောက်ရှိလာခဲ့ ကြလေသည်။ ကိုယ်တော်မြတ် (ﷺ) နှင့် ကိုယ်တော်၏ အိမ်သူအိမ်သားများ အပေါ်ဝယ် အလ္လာဟ်အရှင့်ဘက်တော်မှ ကောင်းချီးမင်္ဂလာအပေါင်း ခညောင်းပါစေ။

အိုး....အီမာန်သက်ဝင်ယုံကြည်ကြသူ အပေါင်းတို့.............. အသင့်တို့သည် အလယ်အလတ် လမ်းစဉ်ကို လိုက်ကြလေကုန်။ ထို့နောက် အသင်တို့၏ ရည်မှန်းချက်၊ မျှော်လင့်ချက်များကို ချုပ်တည်းပါလေ။ ၎င်းနောက် တစ်ချိန် မိမိသည် အလ္လာဟ်အရှင့်ထံပြန်ရမည် ဆိုသည့်အချက်ကို ရင်ဝယ်ပိုက်ထွေးပါလေ။ သေခြင်းတရားမဆိုက်ရောက်မီ အလျင် မိမိ၏ နောင်တမလွန်အတွက် ပြင်ဆင်သမှုပြုပါလေ။ ထို့နောက် နေ့ရက်များ မကုန်ဆုံးမီအလျင် တမလွန်အတွက် အကျိုး

ဖြစ်စေမည့် ရိက္ခာများကို စုဆောင်းပါလေ။ ကြောက်မတ်ဖွယ်ရာကောင်းသော ကေယာမသ်ကြီး မဆိုက်ရောက်မီအလျင် ကောင်းမှုများကို ပွားများပါလေ။ ထို့ပြင် အလ္လာဟ်အရှင်ကိုယ်တော်တိုင် ကြီးမြတ်ကြောင်း ဂုဏ်ပေးထားသော ဥာလတွင် အခွင့်အရေး ရသမျှ ကောင်းမှုများ လုပ်ဆောင်ပါ။ အလ္လာဟ်အရှင်မြတ်က ဥာလကို ဗရ်ကာသ် မင်္ဂလာအပေါင်းနှင့် ဆင်မြန်းထားတော်မူလေသည်။ ထို့နောက် ဥာလကို မွန်မြတ်သည့် နေရာတွင် အထွတ်အခေါင် အနေနှင့် ရဂျဗ် (အလေးအမြတ်ထားခံရခြင်း) လဟု ကင်ပွန်းတပ်တော်မူခဲ့လေသည်။ သို့ရှိရာ ဥာလတွင် တက်စွမ်းနိုင်သမျှ ကောင်းမှုများ ပွားများစွာ ပြုကြပါလေ။ ကေန်စင်စစ် ဥာရဂျဗ်လ၏ နေ့ရက်အတော်များများသည် ကုန်ဆုံးခဲ့လေပြီ။ ထို့ကြောင့် ကျန်ရှိရက်များတွင် မပြုလိုက်ရသည့် ကောင်းမှုကုသိုလ်များကို ပြန်လည် ဖြည့်စွက်ပါလေ။ ထို့ပြင် အလ္လာဟ်အရှင်ကျေနပ်နှစ်သက်စေမည့် အအ်မလ်များနှင့် အရှင်၏ နီးကပ်မှုကို ရယူပါလေ။ အသင်တို့၏ မျှော်လင့်ချက်များက အသင်တို့ကို သေခြင်းတရားမှ မေ့လျော့မှုမဖြစ်စေလေနှင့်။ အဘယ်ကြောင့်ဆိုသော် သေခြင်းတရားဆိုသည်မှာ မျှော်လင့်ချက်များ၊ ရည်မှန်းချက်များ၊ အနာဂတ်၏ ရေရှည်စီမံကိန်းများကို ရိုက်ချိုးပစ်မည့် အရာပင်ဖြစ်သည်။ ထိုအခါ လူသားသည် ခရီးရှည်နှင်ခဲ့ပြီးနောက် အလ္လာဟ်အရှင်၏ အကြောက်တရားထားရှိမှု၊ အရှင်ကို ကြောက်ရွံ့ပြီး ငိုကြွေးမှု၊ အလ္လာဟ်အရှင်ထံတော်ပါး အမှားဝန်ချတောင်းပန်ကာ ပြန်လှည့်မှု မပြုဘဲ သေခြင်း

တရားဆိုက်ရောက်လာမှ ဤအရာများကို အဘယ်ကဲ့သို့ ပြုနိုင်မည်နည်း? ဤသို့ပင်ဘဝကို ကုန်ဆုံးခဲ့သူသည် ၎င်းသူ၏ နောင်တမလွန်ခရီးမှာ လွယ်ကူစွာ ကျော်ဖြတ်နိုင်ပါ့မလား? ၎င်းသူ လွယ်ကူစွာ ဖြတ်သန်းနိုင်ဖို့ လုံးဝ မဖြစ်နိုင်ပေ….

အလ္လာဟ်အရှင် ကျွန်တော်မျိုးနှင့် အသင်တို့ကိုပါ မိမိ၏ချီးမြှင့်ပေးကမ်းမှုများနှင့် မြှောက်စားတော်မူပြီး ကောင်းမှုကောင်းရာများကို များမြောင်စွာ ထပ်တိုး လုပ်ဆောင်နိုင်မည့် သောင်ဖီးက် (အခွင့်အလမ်းများ) ချီးမြှင့်တော်မူပါစေ။ ထို့ပြင် အရှင်မြတ်သည် ကျွန်တော်မျိုးတို့ကို သက္ကဝါတရား၏ အဝတ်ကို ဆင်မြန်းပေးပြီး အရှင်ကျေနပ်နှစ်သက်မည့်လမ်းကို ပို့ဆောင် ပေးသနားတော်မူပါစေ။

ရေးသားခံရခြင်းအရ၊ ဖတ်ရွတ်သရဇ္ဈာယ်ခံရခြင်းအရပါ အကောင်းမွန်ဆုံး စကားရပ်မှာ လူသားတို့ကို လမ်းမှန်ပြသပေးရန် ချပေးခြင်းခံထားရသော ကုရ်အာန်ကျမ်းတော်မြတ်ပင် ဖြစ်ပါသည်။ "အလ္လာဟ်အရှင်မြတ်သည် မြင့်မြတ်သော "ကအ်ဗဟ်" အိမ်တော်ကိုလည်းကောင်း၊ ထူမြတ်သော လများကိုလည်းကောင်း၊ (ကုရ်ဗာန် ပြုမည်ဖြစ်သော) "ကုရ်ဗာနီ" သားကောင်များကိုလည်းကောင်း၊ (ကုရ်ဗာန်ပြုလုပ်ရန်) လည်ပတ်ကြိုးအစရှိသည်ကို တပ်ဆင်ထားသော သားကောင်များကိုလည်းကောင်း၊ လူတို့အဘို့ (သာသနာရေးနှင့် လောကီရေးများ) တည်မြဲစေရန် အကြောင်း ပြုလုပ်ထားတော်မူ၏။ ဤကဲ့သို့ ပြုလုပ်တော်မူခြင်းကား အလ္လာဟ်အရှင်မြတ်သည် မိုးများ၌ ရှိသမျှ

တို့ကိုလည်းကောင်း၊ ပထဝီ၌ ရှိသမျှတို့ကိုလည်းကောင်း၊ သိရှိတော်မူ သည်ကို အသင်တို့ ယုံကြည်ကြရန်ဖြစ်သည်။ ကေန်စင်စစ် အလ္လာဟ် အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့သိရှိတော်မူသော အရှင် မြတ်ပင် ဖြစ်တော်မူပေသတည်း"

## ရဂျဗ်လ

## စတုတ္ထခွသ်ဗဟ်

(ရဂျဗ်လအားခွဲခွာခြင်းနှင့် ရှာဗန်လအား ကြိုဆိုသည့်ခွသ်ဗဟ်)

ချီးမွမ်းထောမနာ ပြုခြင်းအပေါင်းသည် အလ္လာဟ်အရှင်မြတ် တစ်ပါးတည်း အတွက်သာ ဖြစ်တော်မူပါသည်။ လောကဥ္စရှိရှိသမျှအရာ ခပ်သိမ်းသည် ထိုအရှင်မြတ် သန့်ရှင်းစင်ကြယ်ကြောင်းကို မြွက်ဟနေပါသည်။ ၎င်းအရှင်မြတ်သည် အရာခပ်သိမ်းကို မိမိ၏ ချီးမြှင့်မှုဖြင့် လွှမ်းခြုံထား တော်မူလေသည်။ ၎င်းနောက် ထိုအရှင်မြတ်သည် အဦးဆုံးဖြစ်တော်မူပြီး နောက်ဆုံး၌ရှိတော်မူမည့် အရှင်လည်း ဖြစ်တော်မူလေသည်။ ကျွန်တော်မျိုးသည် အရှင်မြတ်၏ စဉ်ဆက်မပြတ်ချီးမြှင့်သည့် ဗရ်ကသ်မင်္ဂလာများ အပေါ်ဝယ် အရှင့်အား ချီးမွမ်းထောမနာပြုပါသည်။

ကျွန်တော်မျိုးသည် အလ္လာဟ်အရှင်မြတ်မှ တစ်ပါး အခြားခဝပ်ကိုးကွယ်ရာ အရှင်မရှိကြောင်းနှင့် ထိုအရှင်နှင့်အတူ ယှဉ်တွဲ ကိုးကွယ်ရာ အရှင် မရှိကြောင်းကိုပါ ကျေးကျွန်တစ်ဦး သက်သေခံသည့်ပုံစံမျိုးနဲ့ သက်သေခံပါသည်။ ထို့နောက် ကိုယ်တော်မြတ် (ﷺ) သည် ကတိသစ္စာတည်ကြည်ပြီး လမ်းမှန်တရားကို ပြသပေးသော အလ္လာဟ်အရှင်၏ ရစူလ်စေတမန်တော် ဖြစ်ကြောင်းကိုလည်း ကျွန်တော်မျိုး သက်သေခံပါသည်။ အလ္လာဟ်အရှင်မြတ်က ကိုယ်တော်မြတ်ကိုအကြောင်းခံ၍ အီမာန်ကို လင်းဝင်းတောက်ပစေခဲ့သည်။ ထို့ပြင် ကိုယ်တော်သခင်ကို

အကြောင်းခံ၍ ရှိုင်သွာန်မိစ္ဆာကို အရေးနိမ့်စေခဲ့သည်။ ထို့နောက် အလ္လာဟ်အရှင်က ကိုယ်တော်မြတ်(ﷺ) ကို မိမိ၏ စစ်သည်ဗိုလ်ခြေများနှင့် အကူအညီပေးတော်မူလေသည်။ ကိုယ်တော်မြတ် (ﷺ) နှင့် ကိုယ်တော်သခင်၏ မိသားစုဝင်များ၊ ဆွဟာဗဟ်သာဝကကြီးများ အပေါ်တွင် အလ္လာဟ်အရှင့်ဘက်တော်မှ ကောင်းချီးမင်္ဂလာအပေါင်း ခညောင်းပါစေ။

အိုး....အီမာန်ရှင်တို့.......ဧကန်စင်စစ် အမှန်တရားကို သိရှိသောသူသည် အမှားကို မုချ ငြင်းဆန်ပေ လိမ့်မည်။ ဤအတိုင်းပင် လောကီသက်တမ်းကို ခုံမင်သူသည် သေခြင်းတရားကို ကြောက်ရွံ့ပေလိမ့်မည်။ ထို့ပြင် နောင်တမလွန်၏ ပြစ်ဒဏ်များကို တွေးတောပူပန်သူသည် ပျက်စီးရာပျက်စီးကြောင်း ကိစ္စရပ်များတွင် ပါဝင်ပတ်သက်လိမ့်မည် မဟုတ်ပေ။ ၎င်းနောက် ကုန်လွန်ခဲ့ပြီးသောအရာများကို တမ်းတသူသည် မုချစိတ်ပန်းရမည်ပင်။ ထို့နောက် အအ်မလ်မရှိဘဲ အပြောသက်သက်သည် လေပေါ်ပျံဝဲနေသည့် မြူမှုန်အလားပင်။ နောင်တမလွန် အာခိရသ်မဟုတ်သော အခြားအရာများအတွက် စုဆောင်းသူသည် အမှန်တကယ် လှည့်ဖြားခံနေရသူပါ။ ထို့နောက် မိမိဘဝကို အလ္လာဟ်အရှင့်အမိန့်အတိုင်း မလျှောက်လှမ်းဘဲ လမ်းမှားပေါ် ကိုယ့်ကိုယ်ကို စတေးသူသည် ရှိုက်သွာန်မိစ္ဆာ ဘက်မှ ဖြားယောင်းသွေးဆောင် ခံထားရသူပါ။ အမှန်စင်စစ် လူသားတစ်ဦးသည် မိမိကိုယ်ကိုမိမိ ကောင်းစွာ သိနားလည်သူပင်ဖြစ်သည်။ ထို့ပြင် မိမိဘယ်ရည်ရွယ်ချက်နှင့် လုပ်ဆောင်

နေသည် ဆိုသည်ကိုလည်း ၎င်းသူ အသိဆုံးပင်ဖြစ်သည်။ ထို့နောက် သာသနာ့ အလုပ်လုပ်ရင်း အလ္လာဟ်အရှင်ကို မေ့လျော့သူသည် ဥစ္စာပစ္စည်းနောက်လိုက်ရင်း အလ္လာဟ်အရှင့်ကို မေ့လျော့သူထက် ပိုအကျဉ်းတန်ပါသည်။

"အိုး...အလ္လာဟ်အရှင်၏ အဖန်ဆင်းခံတို့.......အသင်တို့သည် အလ္လာဟ်အရှင်မြတ်ကို ကြောက်ရွံ့ရိုသေထိုက်သည့်အတိုင်း ကြောက်ရွံ့ကြလေကုန်။ ထို့နောက် အရှင်မြတ်၏ ကျေနပ်နှစ်သက်မှုရရှိရန် အပတ်တကုတ် ကြိုးစားကြလေကုန်။ အသင်တို့သည် အအိမ်မလ်များ လက်ခံခြင်းခံရသည့် လကို ကြုံကြိုက်နေရခြင်းဖြစ်သည်။ ထို့နောက် ဤလ၏ နေ့ရက်များသည် မကြာမီ ကုန်ဆုံးတော့မည် ဖြစ်သည်။ ထို့ကြောင့် ဤလတွင် အချည်းနှီးအလုပ်များတွင် နစ်မွန်းခဲ့သူသည် နောင်တရ၍ ဆုံးမည် မဟုတ်ပေ။ ထိုအတိုင်းပင် ဤလ၏ တန်ဖိုးကို သိနားလည်၍ အကျိုးရှိရှိ အသုံးချခဲ့သူသည် တမလွန် ငြိမ်းချမ်းသာယာမှု အပေါင်းကို စံစားရမည် ဖြစ်သည်။ ရဂျဗ်လသည် ကုန်လုနီးပါးဖြစ်လာသကဲ့သို့ ရှာဗာန်လသည်လည်း ရောက်ရှိလို့ လာတော့မည် ဖြစ်သည်။"

ဤလတွင် ကောင်းမှုများ ပြုလုပ်ခွင့်မရလိုက်သူများအတွက် ဝမ်းနည်းရလေခြင်း။ ထို့နောက် မိမိ၏ အမှားများကို ဝန်ချတောင်းပန်ရန်အတွက် လာမည့်နှစ်ကို ရွှေ့ဆိုင်းသူသည် ဆုံးရှုံးရလေခြင်း။ ထို့သို့ပြုသူများသည် ဧကန်အမှန် မိမိအတွက် သေချာမှုမရှိသောသက်တမ်း

ကို ယုံပုံအားကိုးနေခြင်းကြောင့်သာ ဖြစ်သည်။ ထိုမျှမကသေးဘဲ သေခြင်းတရားဆိုက်ရောက်လာမည်ကို ကြောင့်ကြခြင်းကင်းမဲ့၍ စိတ်ချနေသူသာ ဖြစ်သည်။ ထို့နောက် အကြွင်သူသည် ပျက်စီးရလေခြင်း။ ထိုသူ၏ နှလုံးသာအပေါ်၌ တံဆိပ်ခတ်နှိပ်ပြီးလေသည်။ သို့ဖြစ်ပေရာ ၎င်းက မိမိ၏ ကောင်းမွန်သောမိတ်ဆွေများနှင့်အတူ ကောင်းမှုကောင်းရာမကျင့်ဆောင်ဘဲ ဂွန္ထဟ်အကုသိုလ်များတွင် နစ်မွန်းနေလေသည်။ ထို့နောက် ၎င်းက အလ္လာဟ်အရှင်၏ အမျက်ဒေါသကို မကြောက်ရွံ့ဘဲ မကောင်းမှုများ၌ပင် မိမိ၏ ဤမွန်မြတ်လှသော နေ့ရက်များကို ကုန်ဆုံးစေခဲ့သည်။ နောက်ဆုံးတွင် သေခြင်းတရား၏ နမိတ်လက္ခဏာများကို တွေ့ရသောအခါတွင် ၎င်းသူငြင်းဆန်ခဲ့သည့်အရာက အမှန်တရားဖြစ်နေမှန်း သိလာတော့သည်။ ထို့ပြင် ၎င်းသူအထင်သေးပြီး ကောင်းမှုများကို မပြုဘဲ ကုန်ဆုံးခဲ့သောလသည် ကြီးမြတ်သော လဖြစ်မှန်းယခုအခါမှ နားလည်လေတော့သည်။ ထို့နောက်တွင် မိမိပေါ့ဆခဲ့သောအရာများအတွက် နောင်တရမဆုံးဖြစ်လေသည်။ ၎င်းနောက် အကြွင်အရာများကို မျက်ဝါးထင်ထင်မြင်တွေ့လာမှ သံဝေဂ ယူတတ်လာသည်။ သို့သော် ၎င်းသူ၏ နောင်တတရား၊ သံဝေဂတရားများသည် ၎င်းသူကို မြူမှုန်ခန့်မျှ အကျိုးပြုတော့မည် မဟုတ်ပေ။ အဘယ့်ကြောင့်ဆိုသော် ၎င်းသူ၏ ကောင်းမှု မကောင်းမှုမှတ်တမ်းစာအုပ်ကြီးသည် ပိတ်သိမ်းခံလိုက်ရလေပြီး။ ထိုမျှမက ၎င်း၏ ကောင်းမှုကောင်းရာ ပြုရန်အတွက် လောကီကို တစ်ဖန်ပြန်လာခွင့်လည်း မရှိတော့ပေ။

ယခုအခါတွင် ၎င်းကို စစ်ကြောမေးမြန်းမှုများ စတင်တော့မည် ဖြစ်ပါသည်။ ပြုခဲ့သော ကောင်းမှုအတွက် အကျိုးရရှိမည် ဖြစ်ပြီး ကျူးလွန်ခဲ့သော မကောင်းမှုအတွက် အပြစ်ဒဏ်ခတ်ခံရမည် ဖြစ်သည်။ မျှော်လင့်ချက် ကင်းမဲ့နေသော ကဗရ်၏ အကျဉ်းသားများ၊ တွေ့ဆုံးခွင့်မရသော အတူနေ အိမ်နီးချင်းများ၊ ပြောဆိုဆက်ဆံခွင့်မရသော ညီနောင်များ၏ ဘဝသည် အဘယ်မျှ သနားစရာကောင်းလိုက်ပါသနည်း? အမှန်တကယ် ၎င်းတို့သည် အချင်းချင်းမြင်တွေ့ခွင့်ရသော်လည်း ရိုင်းပင်းကူညီခွင့် မရကြသူများဖြစ်သည်။ ထို့နောက် ၎င်းသူများ၏ အခြေအနေသည် သူတို့ကို စကားစမြည် လာပြောသူကိုပင် ပြန်မပြောနိုင်၊ အဖြေမပေးနိုင်သော အခြေအနေမျိုးဖြစ်ပါသည်။ နောက်ဆုံးတွင် ၎င်းတို့အပေါ် အလ္လာဟ်အရှင်မြတ်၏ သတ်မှတ်ချက် ရောက်ရှိလာခဲ့လေပြီ။ အားလုံးက သေခြင်းတရားကို ရင်ဆိုင်ကြရ လေပြီ။ ထို့နောက် သေခြင်းတရား၏ ငိုက်မျဉ်းမှုသည် အားလုံးကို လွှမ်းခြုံလိုက်လေသည်။ ထို့နောက် ၎င်းတို့အားလုံးသည် ဤသေခြင်းတရားကြီးတွင် နှစ်ခြိုက်စွာ အိပ်မောကျသွားလေတော့၏။ သြော်..... ငါသည် ဂျန္နသ်ကိုသွားရမည့် ကံကောင်းသူများအနက်မှ ဖြစ်မည်လား (သို့) ဂျဟန္နမ်လားရမည့် ကံဆိုးသူများအနက်မှ ဖြစ်မည်လားဆိုသည်ကို ကြိုသိခွင့်ရရင် ကောင်းလေစွ......

ဤလောက၌ ကောင်းမှုကောင်းရာလမ်းကို လျှောက်လှမ်းပြီး ကုသိုလ်ကောင်းမှုများကို စုဆောင်းခဲ့သူအား အလ္လာဟ်အရှင် ကရုဏာ

သက်ပါစေ။ အမှန်တကယ် ၎င်းသူသည် နောင်တမလွန်တွင် စစ်ကြော မေးမြန်းခံရမည်ကို စိုးရွံ့ပြီး ထို့သို့ ပြုကျင့်ခဲ့ခြင်းပင်ဖြစ်ပေသည်။ သို့ သာမက ၎င်းသည် ဤလောကီမှ နောင်တမလွန်ကို မုချ ဆိုက်ရောက် ရမည်ဖြစ်ကြောင်း နှလုံးသွင်းထားသည့် အတွက်ကြောင့် ထို့သို့ကောင်း မှုကောင်းရာ ပြုကျင့်ခြင်းကို တစိုက်မတ်မတ် ဆောင်ရွက်ခဲ့ခြင်းဖြစ် လေသည်။ အလ္လာဟ်အရှင် ကျွန်တော်မျိုးတို့အားလုံးကို ကောင်းမှုကု သိုလ်များ ပြုလုပ်ရာ၌ လွယ်လင့်တကူ ပြုလုပ်နိုင်စွမ်း ချီးမြှင့်ပေးသ နားတော်မူပါစေ။ ထို့အပြင် အရှင်၏ကရုဏာတော်သက်သက်ဖြင့် ကျွန် တော်မျိုးတို့အား ငြိမ်းချမ်းသာယာမှုအပေါင်း ချီးမြှင့်တော်မူပါစေ။ ထို့ နောက် အလ္လာဟ်အရှင်၏အုပ်စုအသင်းဝင်များအဖြစ် ပြုပေးသနား တော်မူပြီး အရှင်နှင့်နီးကပ်ခွင့်ရခြင်းကို ဂုဏ်ယူဝင့်ကြွားသူတို့ အနက်မှ ပြုပေးသနားတော်မူပါစေ။

သတိပေးနှိုးဆော်ရာ၌ လည်းကောင်း၊ ကောင်းမြတ်သော ဆုံးမ ဩဝါဒ ပေးရာ၌ လည်းကောင်း၊ ဆင်ခြင်တုံတရားထားရှိသူတို့ သံဝေဂ ယူရာ၌ လည်းကောင်း အကျိုးအဖြစ်စေဆုံး စကားရပ်မှာ အလ္လာဟ် အရှင်မြတ်၏ ကုရ်အာန်ကျမ်းတော်မြတ် ပင်ဖြစ်ပေသည်။ "အလစ်ဖ်၊ လာမ်၊ ရာ။ ဤသည် အကြင်ကျမ်းဂန်တော်တစ်ဆူတည်း ထိုကျမ်းဂန် ၏ (အာယသ်)တော်များသည် မြဲမြံခိုင်ခံ့အောင် ပြုလုပ်ပြီး ဖြစ်ချေ သည်။ ထို့ပြင်တဝ ထိုအာယသ်တော်များသည် ကျိုးကြောင်း ဆင်ခြင် တုံတရားနှင့် ပြည့်စုံတော်မူသော အကြွင်းမဲ့သိ(မြင်)တော်မူသောအရှင်

မြတ်ထံတော်မှ အသေးစိတ် ရှင်းလင်းဖော်ပြပြီး ဖြစ်ပေသည်။ အသင်တို့သည် အလ္လာဟ်အရှင်မြတ်မှ၊ တစ်ပါး တစ်စုံတစ်ရာကိုမျှ မကိုးကွယ်၊ မဆည်းကပ်ကြကုန်လင့်။ ဧကန်စင်စစ် ငါသည် အသင်တို့အဖို့ ထိုအရှင်မြတ် ထံတော်မှ သတိပေး နှိုးဆော်သူနှင့် ဝမ်းမြောက်ဖွယ်ရာ သတင်းကောင်း ယူလာသူ ဖြစ်ပေသတည်း။

ထို့ပြင် အသင်တို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ် ထံတော်တွင် လွတ်ငြိမ်းချမ်းသာခွင့် ပန်ကြားကြလေကုန်၊ ထို့နောက် အသင်တို့သည် ထိုအရှင်မြတ်ထံတော်၌ ဝန်ချတောင်းပန်လျှက် ရှိကြလေကုန်။ ထိုအရှင်မြတ်သည် အသင်တို့အား သတ်မှတ်ပြီးဖြစ်သော အချိန်ကာလ တိုင်အောင် ကောင်းမွန်လှစွာသော စည်းစိမ်များကို ခံစားစေတော်မူမည်။ ထိုမှတစ်ပါး ထိုအရှင်မြတ်သည် အကျင့်အမူအားဖြင့် ပိုမိုသောသူတိုင်းအား ၎င်း၏ပိုမို (၍ရ ထိုက်) သော အကျိုးကို ချီးမြှင့်ပေးသနားတော်မူပေမည်။

သို့ရာတွင် အကယ်၍၊ အသင်တို့သည် မျက်နှာ လွှဲဖယ်လျှက်ပင် ရှိကြပါလျှင် ငါသည် အသင်တို့နှင့် ပတ်သက်၍ ကြီးကျယ်သော နေ့၏ ပြစ်ဒဏ်ကို စိုးရိမ်လေသည်။ အသင်တို့၏ပြန်လှည့်ခြင်းသည် အလ္လာဟ် အရှင်မြတ် အထံတော်သို့ပင် ဖြစ်၏။ ၎င်းပြင် ထိုအရှင်မြတ်သည် အရာခပ်သိမ်းတို့ကို ပြုနိုင်စွမ်းနိုင်တော် မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း" (၁၁-၁,၄)

## ရှာအ်ဗာန်လ

## ရှာအ်ဗာန်လအစခွသ်ဗဟ်

ချီးမွမ်းထောမနာ ပြုခြင်းအပေါင်းသည် အလ္လာဟ်အရှင်မြတ် တစ်ပါးတည်း အတွက်သာ ဖြစ်ပါ၏။ ထိုအရှင်မြတ်သည် မျိုးစေ့များနဲ့ သစ်စေ့များကို (အညှောက်အတက်ထွက်စေရန်) အက်ကွဲစေတော်မူ သောအရှင် ဖြစ်တော်မူပါသည်။ ပြီးနောက် ထိုအရှင်သည်သာ တိရစ္ဆာန် တို့ စားသောက်ရန် မြက်ပင်၊ ပေါက်ပင်များကို ပေါက်ရောက်စေပါ သည်။ ၎င်းအရှင်သည် သောင်ဗဟ် အမှားဝန်ချတောင်းပန်မှုကို လက် ခံတော်မူပြီး အပြစ်ဂွန္နဟ်များကို လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော် မူသော အရှင်ဖြစ်ပါသည်။ ထို့ပြင် စက္ခုအမြင်အာရုံများသည် ထိုအရှင် မြတ်အား မြင်တွေ့နိုင်မှာ မဟုတ်သလို အရှင်မြတ်သည် လို့လား တောင်းတမှုကင်းသော တစ်ပါးတည်းသော အရှင် ဖြစ်ပါသည်။ ထို့ နောက် အလ္လာဟ်အရှင်မြတ်၏ ပိုင်စိုးမှုတွင် ယှဉ်ပြိုင်တုဖက်မည့် သူမရှိ သလို အရှင့်အား ကူညီဖေးမနိုင်သူ ဟူ၍လည်း မရှိပေ။

ကျွန်တော်မျိုးသည် အလ္လာဟ်အရှင်မြတ်အား ချီးမွမ်းထောမနာ ပြုပါ၏။ ထို့နောက် အလ္လာဟ်အရှင်မြတ်မှ တစ်ပါး တုဖက်ယှဉ်တွဲ ကိုး ကွယ်ရာ အရှင် မရှိကြောင်းကို ကျွန်တော်မျိုး သက်သေခံအပ်ပါ၏။ ထို့နောက် ကိုယ်တော်မြတ် မုဟမ္မဒ် (ﷺ) သည် အလ္လာဟ်အရှင့်ဘက် တော်မှ စေလွှတ်ခြင်းခံရသော စေတမန်ဖြစ်ကြောင်းကိုလည်း ကျွန် တော်မျိုး သက်သေခံအပ်ပါသည်။ အလ္လာဟ်အရှင်မြတ်သည် ကိုယ်

တော်မြတ်(ﷺ)ကို နဗီစေတမန်တို့၏ ခေါင်းဆောင်အဖြစ် ပြုပေးသနားတော်မူပြီး ကေယာမသ်နေ့၌လည်း ၎င်းတို့၏ ဦးသျှောင်အဖြစ် ပြုထားပေးသနားတော် မူလေသည်။ ကိုယ်တော်မြတ် (ﷺ) နှင့် ကိုယ်တော်မြတ်၏ အိမ်သူအိမ်သားများ အပေါ်ဝယ် အလ္လာဟ်အရှင်ဘက်တော်မှ ကောင်းချီးမင်္ဂလာအပေါင်း ခညောင်းပါစေ။

အိုး...အီမာန်ရှင်အပေါင်းတို့.... အသင်တို့သည် သေခြင်းတရား မဆိုက်ရောက်မီအလျှင် အပြစ်များမှ စောလျှင်စွာ ရှောင်ကျဉ်ထားကြလေကုန်။ ပြီးနောက် အလ္လာဟ်အရှင့်ထံ မပြန်ရသေးမီ အလျှင် အကုသိုလ်များမှ ကင်းစင်စွာနေထိုင်ကြလေကုန်။ ထို့နောက် ကောင်းမှုများပြုခွင့်မရတော့မည့် အချိန် မဆိုက်ရောက်မီ အလျှင် ကုသိုလ်ကောင်းမှုတွေပြုကျင့်ရင်း မိမိတို့ဘဝကို ရှင်သန်ပါလေ။ အမှန်တကယ် အလ္လာဟ်အရှင်မြတ်က အသင်တို့ကို အမြတ်အစွန်းမြောက်မြားစွာ ရရှိမည့် လများကို ချီးမြင့်ထားသည်။ ထိုလများမှာ ကောင်းမှုကုသိုလ်များစွာ ပြုပြီးဆတိုး စဝါးဗများကို ရယူကြပါလေ။ ထို့ပြင်အလ္လာဟ်အရှင်မြတ်သည် အသင်တို့ကို ထိုသို့သော လမျိုးများ၌ အပြစ်ကျူးလွန်ခြင်းသည် အဘယ်မျှ ကြောက်မတ်ဖွယ် ကောင်းကြောင်းကိုလည်း သတိပေးထားတော်မူထားလေသည်။

အိုး....အလ္လာဟ်အရှင့်၏ကျေးကျွန်တို့......... ဤရှာအ်ဗာန်လကြီးသည် အလ္လာဟ်အရှင်ဘက်တော်မှ ကောင်းချီးမင်္ဂလာများကို သယ်ဆောင်ပြီး အသင်တို့ဆီ ရောက်ရှိလာခဲ့လေပြီ။ ထို့ပြင် ဤလ၌ အသင်

တို့အပေါ်ဝယ် အလ္လာဟ်အရှင့်ဘက်တော်မှ ဗရ်ကသ်မင်္ဂလာ အသွယ်သွယ် ခညောင်းလေသည်။ ထို့နောက် ဤလ၏ မွန်မြတ်မှုများနှင့် ပတ်သက်၍ ကိုတော်မြတ် (ﷺ) သည် မြောက်မြားစွာ မိန့်မြွက်တော်မူခဲ့လေသည်။ ထို့နောက် ဤလ၏ ဆယ့်ငါးရက်ည ဖြစ်သော (ရှဗေဗရာအသ်-ဝါ-လိုင်လသွလ် ဗရာအသ်)မှာ နိုးကြားစွာနေပြီး အလ္လာဟ်အရှင်မြတ်ကို အေဗာဒသ်ပြုရန်လည်း တိုက်တွန်းထားပါသည်။

အိုး…အီမာန်ရှင်တို့…..အသင်တို့၏ ရည်မှန်းချက်အတွက် ပြင်ဆင်ကြလေကုန်။ ထို့ပြင် ကောင်းမှုကောင်းရာများကို အပတ်တကုတ်ကြိုးစားလုပ်ဆောင်ကြလေကုန်။ ဤဗရာအသ်ညမြတ်တွင် အလ္လာဟ်အရှင်မြတ်သည် မြောက်မြားစွာသော သူတို့ကို အပြစ်ဂွန္နဟ်များမှ လွတ်ငြိမ်းချမ်းသာ ခွင့်ပေးတော်မူလေသည်။ ထို့နောက် မိမိ၏ ရည်မှန်းချက်များ ပြည့်ဝရန် တောင်းခံသူကိုလည်း အရှင်မြတ်က မိမိ၏ ကရုဏာတော် သက်သက်ဖြင့် ဖြည့်ဆည်းပေးတော်မူလေသည်။ ထို့နောက် ဤညမြတ်တွင် အလ္လာဟ်အရှင်မြတသည် အဖန်ဆင်းခံအပေါင်း၏ ရိုဇီရိက္ခာ မှတ်တမ်းကို သတ်မှတ်တော်မူလေသည်။ ထို့ပြင် ဤည၏ ဗရ်ကသ်နှင့် များစွာသော သူတို့ကို ဂျဟာန္နမ်ငရဲမီးမှ လွတ်ငြိမ်းချမ်းသာ ခွင့်ပေးတော်မူလေသည်။ ထို့အတွက်ကြောင့် အသင်တို့သည် ဤညမြတ်တွင် အကုသိုလ်များမှ ရှောင်ကျဉ်ပြီး အရှင်မြတ်ထံတော်ပါးဝယ် ပြန်လှည့်ကြလေကုန်။ ထို့နောက် မိမိတို့၏ လိုအပ်ချက်များကို

အရှင့်ထံ တင်ပြတောင်းခံပါလေ။ မုချအသင်တို့၏ လိုအပ်ချက်များကို အလ္လာဟ်အရှင်မြတ် ဖြည့်ဆည်းပေးတော်မူပေလိမ့်မည်။

မှတ်သားပါလေ……..ဤလောကီသက်တမ်းနောက်ကွယ်တွင် မုချ အသင်တို့သည် စစ်ကြောမေးမြန်း ခံရခြင်း၊ မီးဟုန်းဟုန်းတောက် လောင်နေသော ဂျဟန္နမ်ငရဲမီး၊ သေးသိမ်မှုများနဲ့ ရင်ဆိုင်ကြုံတွေ့ရမည့်ဌာနီ၊ တိကျမှန်ကန် ပြတ်သားသော တရားရုံး၊ သေးငယ်သည့် ဘယ်ပြစ်မှု တစ်စုံတစ်ရာကို မျှလည်းကောင်း၊ ကြီးလေးသည့် ပြစ်မှု တစ်စုံတစ်ရာကိုမျှ လည်းကောင်း ခြွင်းချန်ထားခြင်းမရှိသော မှတ်တမ်းစာအုပ်၊ ကောင်းမှုပြုသူကို ကောင်းမှု အစားပေးပြီး မကောင်းမှု ပြုသူကို အပြစ်ဒဏ်ခတ်မည့် တစ်ပါးတည်းသော အရှင်မြတ်နှင့် ရင်ဆိုင်ကြုံတွေ့ရမည် ဖြစ်သည်။

သို့ရှိရာ မိမိဆံနွယ်ကို အကျိုးရှိသော ကောင်းမှုလုပ်ငန်းများတွင် ကျင်လည်ရင်း ဖြူစေခဲ့သူကို အလ္လာဟ်အရှင် ကရုဏာ သတ်တော်မူပါစေ။ ထို့နောက် သေခြင်းတရားမဆိုက်ရောက်မီ အလျှင် မိမိ၏ ဂျဟန္နမ်လားစေမည့် ရောဂါဆိုးကို ကုသခဲ့သူနှင့် မိမိ၏လမ်းမှားမှုကို အချိန်မှီ တည့်မတ်ခဲ့သူတို့ကို အလ္လာဟ်အရှင် ကရုဏာသတ်တော်မူပါစေ။ ကေန်အမှန် ၎င်းသေခြင်းတရားသည် အသင်တို့ကို သူ၏ ခါးသီးသော အရသာကို မြည်းစမ်းစေမည် ဖြစ်သည်။ ထို့နောက် အသင်တို့ကို သွားလေသူတို့ နေထိုင်ရာ ဌာနီသို့ မောင်းနှင်မည် ဖြစ်သည်။ ကေန်စင်စစ် သွားလေသူတို့သည် ၎င်းတို့၏ ဥစ္စာပစ္စည်းများ၊ နေရာ

ထိုင်ခင်းများ၊ သားသမီး ရတနာများကို စွန့်၍ သေခြင်းတရား၏ခေါ် ဆောင်ရာဘက်သို့ လိုက်လံ သွားခဲ့ကြရခြင်းဖြစ်သည်။ ထို့နောက် ၎င်း တို့သည် ပျက်စီးသူတို့ စခန်းတွင် စတည်းချရခြင်းဖြစ်ပြီး သူတို့ ပြုကျင့် ခဲ့သော ကောင်းမှုနှင့် မကောင်းမှုများကို ခံစားစံစားရကြခြင်းဖြစ်သည်။ ထို့နောက် ချမ်းသာသူ၏ ရုပ်ကလာပ်သည်လည်း ပျက်စီးသွားလေပြီ။ ၎င်းနေက် ဆွေးမြည့်မှု များကလည်း ၎င်းတို့ရုပ်ကလာပ်၏ အခြေအနေ များကို ပြောင်းလဲ ပစ်လိုက်လေပြီ။ ကျန်ရှိသူတို့သည်လည်း ၎င်းသူတို့ အလား လျှောက်လှမ်းရမည်ပင်။ အဘယ်အတွက်ကြောင့် ကျန်ရှိသူတို့ သံဝေဂ မယူကြပါသနည်း?

အလ္လာဟ်အရှင်သည် ကျွန်တော်မျိုးတို့အားလုံးကို အဟောသိ က အလုပ်များမှ ရှောင်ကျဉ်နိုင်စွမ်းပေးသနား တော်မူပြီး ကောင်းမှု ကောင်းရာကို စဉ်ဆက်မပြတ် ပြုနိုင်စွမ်းပေးသနားတော်မူပါစေ။ ထို့ပြင် မိမိတို့၏ မကောင်းသော စိတ်ကိုချိုးနှိမ်နိုငစွမ်းပေးသနားတော်မူ ပြီး အလ္လာဟ်အရှင့် အကြောက်တရားကို အမြဲ ရင်ဝယ်ပိုက်ထွေးနိုင်သူ များ အဖြစ် ပြုပေးသနားတော်မူပါစေ။

မုချ စကားအရာတွင် အပြောင်မြောက်ဆုံးနှင့် မုအ်မင်န်တိုင်း ရင် ဝယ်ပိုက်ထွေးကြသော အရာများအနက်မှ အကောင်းမွန်ဆုံးအရာ မှာ ကျေးဇူးတော် ကြီးမားလှသောအလ္လာဟ်အရှင်မြတ်၏ မုက္ခပါဠ်တော် ပင် ဖြစ်ပါသည်။ "ဟာ၊ မီမ်။ (ငါအရှင်မြတ်သည်) ရှင်းလင်းထင်းရှား သော (ဤ) ကျမ်းဂန်ကို သက်သေထူတော်မူ၏။ မုချကေန် ငါအရှင်

မြတ်သည် ယင်းကျမ်းဂန်ကို ကောင်းချီးမင်္ဂလာနှင့် ပြည့်စုံသော ညဥ့်တစ်ညဥ့်တွင် ချပေးသနားတော်မူခဲ့၏။ ကေန်စင်စစ် ငါအရှင်မြတ်သည် သတိပေးတော်မူမည့်အရှင် ဖြစ်တော်မူ၏။ ယင်းညဥ့်တွင် နက်နဲသိမ်မွေ့သော အရေးကိစ္စဟူသမျှတို့သည် အသေးစိတ် သတ်မှတ်အတည်ပြုခြင်း ခံရလေ၏။ ငါအရှင်မြတ်အထံတော်၌ ပြဋ္ဌာန်းတော်မူခြင်းအားဖြင့် ကေန်မလွဲ ငါအရှင်မြတ်သည် (အသင့်အားရစူလ်တမန်တော်အဖြစ်) စေလွှတ်တော်မူသော အရှင်ပင် ဖြစ်တော်မူ၏။ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်ထံတော်မှ ကရုဏာတော်အားဖြင့် စင်စစ်ကေန် ထိုအရှင်မြတ်သည်ပင် အလွန်တရာ ကြားတော်မူသောအရှင်၊ အလွန်တရာ သိတော်မူသောအရှင်၊ ဖြစ်တော်မူ၏" (၄၄-၆)

## ရှာအ်ဗာန်လ

## ရှာအ်ဗာန်လအား နှုတ်ဆက်ခွဲခွာခြင်း ခွသ်ဗဟ်

ချီးမွမ်းထောမနာ ပြုခြင်းအပေါင်းသည် အလ္လာဟ်အရှင်တစ်ပါး တည်းအတွက်သာ ဖြစ်ပါ၏။ ထိုအရှင်မြတ်ကို လွှမ်းခြုံနိုင်မည့် နေရာမ ရှိသလို ထိုအရှင်မြတ်နှင့် တူဆင်သော အရာလည်း မရှိပါ။ အကြင် အရှင်မြတ်သည် သာလျှင် အရာအားလုံးကို လွှမ်းခြုံထားပေသည်။ ထို့ ပြင် အရာအားလုံးကို အကြွင်းမဲ့ သိရှိတော်မူသော အရှင်ဖြစ်ပေသည်။ ထို့နောက် အရှင်မြတ်သည် သာလျှင် အမြဲတည်ရှိတော်မူသော အရှင် ဖြစ်ပါသည်။

ကျွန်တော်မျိုးသည် အလ္လာဟ်အရှင်မြတ်ကို ချီးမွမ်းထောမနာ ပြုပါ၏။ ထို့ပြင် အလ္လာဟ်အရှင်မြတ်၏ ကျေးကျွန်တစ်ယောက်အနေ ဖြင့် အရှင်မြတ်သည် အရာခပ်သိမ်း၏ ဖန်ဆင်ရှင်ဖြစ်ကြောင်းကို ကျွန် တော်မျိုး သက်သေခံအပ်ပါသည်။ ထို့နောက် အရှင်မြတ်သည် မိမိကျမ်း တော်မြတ်တွင် မိမိမှတစ်ပါး အခြားခဝပ် ကိုးကွယ်ရာ အရှင်မရှိ ကြောင်းကို မိမိ ကိုယ်တော်တိုင် သက်သေခံတော်မူထား သကဲ့သို့ ကျွန် တော်မျိုးလည်း သက်သေခံပါသည်။ အလ္လာဟ်အရှင်မြတ်သည် ကုရ် အာန်ကျမ်းတော်မြတ်တွင် မိမိကိုယ်တော်တိုင် ဤသို့ သက်သေခံတော် မူထားလေ၏။ "အလ္လာဟ်အရှင်မြတ်သည် မိမိမှတစ်ပါး အခြားခဝပ် ကိုးကွယ်ရာ အရှင်မရှိကြောင်း (မိမိကိုယ်တော်တိုင်) သက်သေခံတော် မူခဲ့လေပြီ။ ထိုနည်းတူစွာ၊ "မလာအိကဟ်" ကောင်းကင်တမန်များနှင့်

ပညာရှင် သုခမိန် အပေါင်းတို့သည်လည်း (မိမိတို့၏ အကျင့်အမူ များဖြင့် သက်သေခံခဲ့ကြလေပြီ။ ထိုအရှင်မြတ်သည် တရားမျှတစွာ စီမံအုပ်ချုပ်လျက်ရှိတော်မူ၏။ ထိုအရှင်မြတ် သည်သာလျှင် ခဝပ်ကိုး ကွယ်ရာ အရှင်ဖြစ်တော်မူ၍ ထိုအရှင်မြတ်မှ တပါး ခဝပ်ကိုးကွယ်ရာ အရှင်ဟူ၍ အလျှင်းမရှိပြီ။ (ထိုအရှင်မြတ်သည်) တန်ခိုးအာနုဘော်ဖြင့် လွှမ်းမိုးတော် မူသောအရှင်၊ အကျိုးအကြောင်း ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသော အရှင်မြတ်ပင်တည်း" (၃-၁၈)

တမန်တော်မြတ် (ﷺ) သည် လူသားတို့အနက်မှ ရွေးချယ်ခံရ သော အလ္လာဟ်အရှင်၏ သစ္စာရှင် စေတမန်ဖြစ်ကြောင်းကို ကျွန်တော် မျိုး သက်သေခံပါသည်။ အလ္လာဟ်အရှင်မြတ်သည် ကိုယ်တော်မြတ် (ﷺ) ကို အလွန်ပင် ရသမြောက်အောင်စကားပြောဆို ကြသူတို့ထံသို့ အမွန်မြတ်ဆုံးသော ကျမ်းဂန်ကို ပေး၍ စေလွှတ်တော်မူခဲ့လေ၏။ ထို့ နောက် ၎င်းကိုယ်တော်သခင်ဖြင့် သွေဖည်ငြင်းဆန်သူများနှင့် သာသ နာ့ဘောင်ကျော်သူများကို အလ္လာဟ်အရှင်မြတ်သည် အမြစ်ဖြတ် ချေ မှုန်းတော်မူလေ၏။ ထို့ပြင် အရှင်မြတ်သည် ကိုယ်တော်မြတ် (ﷺ) ကို မုနာဖစ်က် (အစ္စလာမ်အရေခြုံ )များနှင့် ပတ်သက်ပြီးလည်း နိုင်နင်း လွှမ်မိုးမှုကို ချီးမြင့်တော်မူလေ၏။ ထို့အတွက်ကြောင့် အမှန်တရား သည် ကမ္ဘာ အနှံ့ ပျံ့နှံ့ပြီး လမ်းမှားမှုတို့မှာလည်း တစ်စတစ်စ ပျောက် ကွယ်သွား လေတော့သည်။ ကိုယ်တော်မြတ် (ﷺ) နှင့် ကိုယ်တော်သ

ခင်၏ မိသားစုအပေါ်ဝယ် အလ္လာဟ်အရှင်မြတ်ဘက်တော်မှ ကောင်းချီး မင်္ဂလာအပေါင်း ကျရောက်ပါစေ။

အိုး...အီမာန်ရှင်အပေါင်းတို့...... စစ်မှန်သော ဝမ်းနည်းပူဆွေး သောကဆိုသည်မှာ လောကတွင် အရာတစ်ခုခုကို လက်လွှတ်ဆုံးရှုံး လိုက်ရသည့် အတွက်ကြောင့် ဖြစ်တည်လာသော ဝမ်းနည်းမှုကို ခေါ်ခြင်းမဟုတ်ပေ။ သေခြင်းတရားဖြင့် အဆုံးသတ်မည့် ဤလောက ၏ သက်တမ်းကို ဆုံးရှုံးလိုက်ရသည့် အတွက်ကြောင့် ဖြစ်ပေါ်လာသော ပူဆွေးမှုသည်လည်း စစ်မှန်သော ပူဆွေးသောက မဟုတ်ပေ။ အမှန်တ ကယ် စစ်မှန်သော စဉ်ဆက်မပြတ် ပူဆွေးသောကရောက်ရမည့် ဝမ်း နည်းမှုမျိုးဆိုသည်မှာ အားလုံးထက် ရှေးဦးစွာ အီမာန်သက်ဝင်ယုံ ကြည်သူတို့၊ ကိုယ်တော်မြတ် (ﷺ) ချပြခဲ့သော လမ်းစဉ်ပေါ်တွင် တစိုက်မတ်မတ် လျှောက်လှမ်းသူတို့၊ လောကီ၌ စိတ်၏အလိုရမ္မက် နောက်မလိုက်ဘဲ အလ္လာဟ်အရှင်အမိန့်ကိုနာခံသူတို့အား အရှင်မြတ် ဘက်တော်မှ ဂုဏ်ပြုသောအခါ ၎င်းသူတို့စာရင်းတွင် အသင့်နာမည်ပါ ဝင်ခြင်းမရှိသည့် အတွက်ကြောင့် ပူဆွေးသောကရောက်ရသော အ ကြင်ဝမ်းနည်းမှုသာလျှင် စစ်မှန်သော ဝမ်းနည်း ပူဆွေးသောကပင် ဖြစ် သည်။ ဤကဲ့သို့ အဆုံးမရှိသော ဝမ်းနည်းပူဆွေးသောကကြီးသည် အ ဘယ်မျှလောက် ကြောက်မတ်ဖွယ်ကောင်းလိုက်မည်နည်း?

အိုး...အလ္လာဟ်အရှင်၏ အဖန်ဆင်းခံတို့.........ဤရှာဗာန်လ ကြီးသည် အသင်တို့၏ အအ်မလ်များကို သယ်ဆောင်ပြီး မိမိ အရှင်သ

ခင်ထံ ပြန်နေချေပြီ။ ထို့နောက် အရှင်မြတ်ထံတော်ပါးတွင် တစ်ဦးတိုင်း၏ အအိမလ်များကို ဆက်သတော့မည်ဖြစ်သည်။ မိမိတို့ကုသိုလ်ကောင်းမှုများ၏ အစားကို အလ္လာဟ်အရှင်ထံတော်ပါးမှ ပြည့်ပြည့်ဝဝရရှိသည့် အတွက်ကြောင့် ကြည်နူးနေကြသော မျက်နှာများသည် အဘယ်မျှလောက် လှပတင့်တယ်နေပါသနည်း? မိမိတို့မေ့မေ့လျော့လျော့ နေခဲ့သည့်အတွက်ကြောင့် အရှင်မြတ်ဘက်တော်မှ ပြစ်ဒဏ်ခက်မည်ကို ပူပင်သောကရောက်နေကြသော မျက်နှာများသည် အဘယ်မျှလောက် အကျည်းတန် နေမည်နည်း?

အမြဲသိက္ခာရစေဖို့ရန် ယခုမှပင် ကောင်းမှုကုသိုလ်များပြုရန် ယတိပြတ်ဆုံးဖြတ်ချက်များ ချပါလေ။ ထို့နောက် အသင်တို့ကို စောင့်ဆိုင်းနေသော သေခြင်းတရား မဆိုက်ရောက်မီ အလျှင် ကောင်းမှုကောင်းရာ ပွားများပါလေ။ ထိုသေးခြင်းတရားသည် အသက်ဇီဝိန်တို့ကို ၎င်းတို့၏ကိုယ်ခန္ဓာမှာ နုတ်ယူပြီး အမှောင်ထုများနှင့် ပြည့်နက်နေသော လောကထဲသို့ ထည့်သွင်းလိုက်မည် ဖြစ်သည်။ ထို့ပြင် သားသမီးများနှင့် ဖခင်များကြား တံတိုင်းသဖွယ် ခြားလိုက်ပေလိမ့်မည်။ ထို့နောက် ငိုကြွေးသူတို့၏ ငိုကြွေးမှုများသည်လည်း အကျိုးဖြစ်ထွန်းမည်မဟုတ်တော့ပေ။ ထို့နောက် ၎င်းအသက်ဇီဝိန်တို့သည် အမှောင်ထုကြီးထဲ၌ တစ်ဦးတည်း အထီးကျန်ဆန်နေပေလိမ့်မည်။ ၎င်းနောက် ကေယာမသ် (ကမ္ဘာ့လူသားထုတစ်ရပ်လုံးပြန်လည် ရှင်ပြန်ထရမည့်နေ့)ကို တမ်းတနေကြပေလိမ့်မည်။ တမလွန်တွင် ကောင်းစားစေရန် ကြိုတင်

ပြင်ဆင်ထားသူ နှင့် သွားလေသူများကို ကြည့်၍ သံသောဂတရားထား ရှိသူကို အလ္လာဟ်အရှင် ကရုဏာသတ်တော်မူပါစေ။ အလ္လာဟ်အရှင် ကျွန်တော်မျိုးတို့အားလုံးကို သနားကြင်နာ၍ မိမိ၏ နူရ်ရောင်ခြည် တော်ဖြင့် လမ်းမှန်ပြသပေးခဲ့သော သူများအနက်မှ ပြုပေးသနားတော် မူပါစေ။

ဧကန်မုချ စာပေအရာ၌ အလှအပဆုံး၊ ကျစ်လျစ်ခိုင်မာမှုအရှိ ဆုံးနှင့် ရှင်းလင်းပြတ်သားမှု အရှိဆုံး စာပေမှာ အလ္လာဟ်အရှင်မြတ်၏ စကားရပ်တော်ပင် ဖြစ်ပါသည်။ "ထို့မှတပါး အသင်သည် (ဤသို့) ပြောကြားပါလေ၊ (အသင်တို့ နှစ်သက်ရာများကို) ပြုလုပ်ကြလေကုန်၊ မကြာမီ အသင်တို့၏ အပြုအမူကို အလ္လာဟ်အရှင်မြတ်သည် လည်း ကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်မြတ်သည် လည်းကောင်း၊ "မုအ်မင်န်" သက်ဝင်ယုံကြည်သူတို့ သည်လည်းကောင်း တွေ့မြင်ကြ ပေမည်" (၉-၁၀၅)

## ရမသွာန်လ

## ရမသွာန်လအစခွဲသ်ဗဟ်

ချီးမွမ်းထောမနာ ပြုခြင်းအပေါင်းသည် နောက်ဆုံးအထိ ကျန်ရှိတော်မူသော အလ္လာဟ်အရှင်မြတ်တစ်ပါးတည်းအတွက်သာ ဖြစ်တော်မူပါသည်။ ထိုအရှင်မြတ်သည် သေသူအပေါင်းတို့အား ကေယာမသ်နေ့၌ ပြန်လည် ရှင်ပြန်ထစေတော်မူမည်ဖြစ်၏။ အကြင်အရှင်သည်သာလျှင် အရားအားလုံး၏ နိဂုံးကို ချုပ်ငြိမ်းစေတော်မူသောအရှင်ဖြစ်သည်။ ထို့နောက် အလ္လာဟ်အရှင်မြတ်သည် အကွယ်မှ အရာအားလုံးကို အကြွင်းမဲ့ သိရှိတော်မူသော အရှင်ဖြစ်သကဲ့သို့ မိမိပေးထားသည့် ကတိကဝတ်များကို ပြည့်ဝအောင်ပြုတော်မူသောအရှင်လည်း ဖြစ်တော်မူပါသည်။ ပြီးနောက် အလ္လာဟ်အရှင်သည် မိမိကျေးကျွန်များအနက်မှ တမန်တော်မုဟမ္မဒ် (ﷺ) ကို မိမိ၏ သစ္စာရှင်အဖြစ် ရွေးချယ်တော်မူခဲ့သည်။ တဆက်တည်းမှာပင် အရှင်မြတ်သည် အခြားတစ်စုံတစ်ရာကို အလ္လာဟ်အရှင်မြတ်နှင့် တွဲဖက်ကိုးကွယ်မှုမပြုရသော နဗီတမန်တော် အီဗ်ရာဟီမ် (ﷺ)၏ သာသနာကို ကိုယ်တော်မြတ် (ﷺ) ၏ သာသနာအဖြစ် ပြုပေးသနားတော်မူလေသည်။ ကျွန်တော်မျိုးသည် အလ္လာဟ်အရှင်မြတ်အား ချီးမွမ်းထောမနာပြုပါ၏။ ထိုအရှင်မြတ်သည်သာ ချီးမွမ်းမှု အလုံးစုံကို ထိုက်သက်သော အရှင်ဖြစ်ပါသည်။ ထို့နောက် ထိုအရှင့်ထံပါးမှာ ကျွန်တော်မျိုးအကူအညီ တောင်းခံပါ၏။

အကြင်အရှင်သည်သာ အကောင်းဆုံး ယိုင်းပင်း ကူညီတော်မူသော အရှင်ဖြစ်ပါသည်။

ကျွန်တော်မျိုးသည် အလ္လာဟ်အရှင်မြတ်မှ တစ်ပါးအခြားခဝပ်ကိုးကွယ်ရာ အရှင်မရှိကြောင်း၊ ထိုအရှင်မြတ်နှင့်တုဖက် ယှဉ်တွဲ ကိုးကွယ်ရာ အရှင်မရှိကြောင်းကို ကျွန်တော်မျိုး သက်သေခံပါ၏။ ထို့နောက် ကိုယ်တော်မြတ် မုဟမ္မဒ် (ﷺ) သည် အလ္လာဟ်အရှင်မြတ်၏ ဗန္ဒဟ်အစေတော်နှင့် ရစူလ်တမန်တော်ဖြစ်ကြောင်းကိုလည်း ကျွန်တော်မျိုး သက်သေခံပါ၏။ အလ္လာဟ်အရှင်မြတ်သည် ကိုယ်တော်သခင်(ﷺ) အား အလယ်အလတ်လမ်းစဉ်ကို ချီးမြှင့်ပြီး စေလွှတ်တော်မူခဲ့လေသည်။ ထို့ပြင် အလ္လာဟ်အရှင်မြတ်သည် ကိုယ်တော်မြတ် (ﷺ) ကို အမွန်မြတ်ဆုံးသော ကအ်ဗ်ဗင်န်လုအိုက်ရ်၏ မျိုးနွယ်ထဲမှမွေးဖွားစေပြီး ထိုမျိုးနွယ်၏ သီးသန့်ပုဂ္ဂိုလ်တော်များ အနက်မှ ရွေးထုတ်ကာ ကမ္ဘာသူ၊ ကမ္ဘာသားအားလုံးအတွက် ကရုဏာ ရှင်အဖြစ်နှင့်စေလွှတ်တော်မူခဲ့လေသည်။ ကိုယ်တော်မြတ်(ﷺ)နှင့် ကိုယ်တော်သခင်၏မိသားစုဝင်များအပေါ်ဝယ် ကမ္ဘာတည်သ၍ အလ္လာဟ်အရှင်မြတ်ဘက်တော်မှ ကောင်းချီးမင်္ဂလာအပေါင်း ခညောင်းပါစေ။

အိုး…အီမာန်သက်ဝန်ယုံကြည်ကြသူအပေါင်းတို့…..အကြီးမားဆုံး အောင်မြင်မှု (တမလွန်၏အောင်မြင်မှု)ကို ရရှိရန် ကြိုးစားကြလေကုန်။ ထို့နောက် ဤသို့မွန်မြတ်သောလတွင် သူမွန်သူမြတ်တို့နှင့် နီးကပ်စွာ နေထိုင်ခွင့်ရသည့် အခွင့်အရေးကို လက်လွတ်ဆုံးရှုံးမခံကြလေ

နှင့်။ ထို့နောက် ဤတိုတောင်းလှသော လောကသက်တမ်းမှာ တမလွန်အတွက် ကောင်းမှု ရိက္ခာကို တတ်စွမ်းနိုင်သမျှ စုဆောင်းကြလေကုန်။ ထို့ပြင် ကမ္ဘာ့လူသားထုတစ်ရပ်လုံး စုရုံးရမည့် နေ့အတွက်လည်း ကုသိုလ်ကောင်းမှုများ ပြုလုပ်ခြင်းဖြင့် အသင့်ပြင်ကြလော့။

ဤလမြတ် ရမသွာန်တွင် အသင်တို့ အပေါ် ၀ယ် အလ္လာဟ်အရှင်ဘက်တော်မှ နေ့အိမသ်ပေါင်းစုံသည် လွှမ်းခြုံထားပေသည်။ ထို့နောက် အလ္လာဟ်အရှင်မြတ်သည် အသင်တို့အား ဤလမြတ်ကို ချီးမြှင့်တော်မူရခြင်းမှာ လောက၌ အသင်တို့သည် ကောင်းမှုများ ပြုဖို့အခွင့်အရေး မရရှိခဲ့ပါဘူးဆိုသည့် ဆင်ခြေများကို ရပ်တန့်စေရန် အတွက်ဖြစ်လေသည်။ ကေန်မုချ ဤလကို အလ္လာဟ်အရှင်မြတ်က တစ်နှစ်တာလုံးကို အလင်းဆောင်ပေးမည့် မီးရှူးတန်ဆောင် အဖြစ်ပြုပေးထားတော်မူလေသည်။ ထို့ပြင် အစ္စလာမ်သာသနာတော်၏ မဏ္ဍိုင်ကြီးတစ်ခုဖြစ်သော (ရိုဇာ) ဥပုသ်သီလစောင့်ထိန်းခြင်းကိုလည်း ဤလ၌ပင် ထွန်းလင်းတောက်ပစေသည်။ ပြီးနောက် ဤလမြတ်၏ ညဥ့်များတွင် စောလျှင်စွာမအိပ်ဘဲ အရှင်မြတ်အတွက် နိုးကြားစွာနေပြီး သရာ၀ီနမားဇ်ကို ၀တ်ပြုရသည့် အခွင့်အရေးကိုလည်း ချီးမြှင့်ပေးသနားတော်မူထားလေသည်။ ဤလ၌ပင် အလ္လာဟ်အရှင်မြတ်က ကျမ်းတော်မြတ်ကုရ်အာန်ကို ချပေးသနားတော်မူခဲ့ပြီး မိမိထံ တောင်းဆုခြွေသူတို့အတွက် အထူးအခွင့်အလမ်းများ ချီးမြှင့်တော်မူလေသည်။ ဤလ၌တောင်းဆုဒိုအာ၊ ပြုလေသမျှကောင်းမှုဟူဟူသ၍ကို အရှင်မြတ်က

လက်ခံအတည်ပြုတော်မူလေသည်။ ထို့နောက် မတရားမှုဟူဟူသမျှကို မိမိ၏ ကရုဏာတော်ဖြင့် ကျေးကျွန်များအပေါ်မှ ဖယ်ရှားပေးတော်လေသည်။ မုချအောင်မြင်သူဆိုသည်မှာ ဤလမြတ်၏ စက္ကန့်တိုင်း စက္ကန့်တိုင်းကို အမိအရ အကျိုးရှိရှိ အသုံးချခဲ့သူဖြစ်ပြီး ဆုံးရှုံးသူဆိုသည်မှာ ဤကဲ့သို့လမြတ်မျိုးတွင်ပင် ကုသိုလ်ကောင်းမှုများမပြုဘဲ မေ့မေ့ပျောက်ပျောက်နေသူသာ ဖြစ်ပေသည်။

အိုး........ကောင်းမှုကုသိုလ်စုဆောင်းသူ ဤလသည် အသင့်အတွက် ကောင်းမှုများ ပြုရန် အထိုက်သက်ဆုံးလဖြစ်သည်။ အိုး....မေ့လျော့နေသူ ဤလသည် အသင်သတိရနှိုးကြားပြီး အကုသိုလ်များမှ ရှောင်ကျဉ်ရမည့် လဖြစ်သည်။ ကေန်စင်စစ် ဤလတွင် လပေါင်းတစ်ထောင်ထက် သာပိုမွန်မြတ်သော ညဥ့်ရှိပေသည်။ ၎င်း ညဥ့်မှာ လိုင်လသွလ်ကဒရ်ညမြတ် ဖြစ်၏။ ၎င်းညဥ့်တွင် အလ္လာဟ်အရှင်မြတ်က မိမိထံတောင်းဆုပြုသူတိုင်း၏ ဒိုအာကိုလက်ခံ တော်မူလေသည်။ ထို့နောက် ဂျဟန္နမ်ငရဲမီးမှ လွတ်ငြိမ်းချမ်းသာခွင့် တောင်းသူတိုင်းကို လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော်မူလေ၏။ ထို့ပြင်မိမိထံ အမှားဝန်ချတောင်းပန်ကာ ပြန်လှည့်သူတိုင်းကို လက်ခံတော်မူပြီး ၎င်းသူ၏ အပြစ်များကို ခွင့်လွှတ်တော်မူလေ၏။ ထို့နောက် မိမိထံတော်ပါးဝယ် ခိုလှုံ လာသူတိုင်းကို ခိုလှုံခွင့်ပေးသနားတော်မူပြီး ၎င်းသူ၏ စိတ်နှလုံးသာကို တည်ငြိမ်အေးချမ်းအောင် ပြုပေးသနားတော်မူလေ၏။

အိုး.....အအ်မလ်များကို အပတ်တကုတ်ကြိုးစားပြုသူတို့.....ဤလတွင် ရရှိသမျှ အခွင့်အရေးတိုင်းကို လက်မလွှတ်တန်းဆုပ်ကိုင်ကြလေကုန်။ အိုး....အရှင်၏ အမိန့်နာခံမှုတွင် လျော့နည်းကြသူအပေါင်းတို့....ဤလ၏ နေ့များထက်ပို၍ ဗရ်ကာသ်မဂ်ဖ်လာရှိသော ညဥ့်များတွင် မိမိတို့ လျော့နည်းခဲ့သော အရာများကို ပြန်လည်ဖြည့်ဆည်းရန် ယတိပြတ် ဆုံးဖြတ်ကြလေကုန်။ ဤလ၏ နေ့ရက်များသည် အကုသိုလ် အညစ်အကြေးများနှင့် ကင်းစင်နေသကဲ့သို့ မကောင်းသောဂျင်န်ဆိုးများကိုလည်း အရှင့်ဘက်တော်မှ ဖမ်းချုပ် ထားတော်မူလေသည်။ ထို့နောက် ဤလ၌ အလ္လာဟ်အရှင်မြတ်က မိမိထံမှ သနားကြင်နာမှုကို တောင်းခံသူတိုင်းအပေါ် ကရုဏာမိုးများ ရွာသွန်းဖြိုးပေးလေ၏။ ပြီးနောက် အရှင်မြတ်သည် သောင်ဗာဟ်လက်ခံခြင်း တံခါးကို ဖွင့်ပေးထားတော်မူလေသည်။ ဧကန်မုချ ဤလ၏ လွတ်ငြိမ်းချမ်းသာခွင့်ပေးသော အချိန်များသည် တစ်လ လုံးအတွင်း စဉ်ဆက်မပြတ် ရှိနေပေသည်။ သို့သော် အသင်တို့သည် ထိုလမြတ်ကြီး မကုန်ဆုံးခင်တောင်းခံမှသာလျှင် လွတ်ငြိမ်းချမ်းသာခွင့်ကို ရရှိမည်ဖြစ်သည်။ ထိုသို့မဟုတ်ဘဲ အခွင့်အခါများ ကုန်ဆုံးပြီးမှ တောင်းဆုပြုပါကရရှိမည် မဟုတ်ပေ။ အကယ်၍ အသင်တို့သည် မိမိတို့သက်တမ်း၏ နေထိုင်ရမည့် နေ့ရက်များကုန်ဆုံးမှု မြန်ဆန်လွန်းသည်ကို သတိပြုမိပါက မုချအသင်တို့သည် မိမိတို့မျှော်လင့်ချက်များ၏ သွေးဆောင်ဖြားယောင်းမှုများကို မျက်ဝါးထင်ထင်တွေ့ရှိရမည်ဖြစ်သည်။ ထို့ပြင် အသင်တို့သည်

မိမိတို့ မျှော်လင့်ချက်များ၏ အမှန်စင်စစ်ကို သိကြပါက မုချ အသင်တို့သည် နောင်တမလွန် အာခေရသ်အတွက် ပြင်ဆင်ကြလိမ့်မည်။

အိုး….အီမာန်ရှင်အပေါင်းတို့….အသင်တို့သည် အလ္လာဟ်အရှင်မြတ်ကို အကြောက်တရားထားရှိကြလေကုန်။ ထို့နောက် ဤမွန်မြတ်သော လတွင် ကောင်းမှုကုသိုလ်များ ပြုရန်အတွက် နောက်ဆိုင်းရင်း ဤလမြတ်ကုန်ဆုံးသွားသည့် အဖြစ်မျိုးမရောက်ရလေအောင် အထူးသတိပြုကြလေကုန်။ ထို့နောက် မိမိတို့ အအ်မလ်များကို လျော့နည်းစေမည့် ပြစ်မှုများမှ ရှောင်ကျဉ်ပါ။ ထို့သို့မပြုခဲ့ပါမူ အသင်တို့သည် အများသူငါ စုရုံးရမည့် နေ့တွင် မည်သည့်ကောင်းမှု တစ်စုံတစ်ရာမျှ မပါဘဲ စုရုံးရသည့်အဖြစ်နှင့် ကြုံကြိုက်ရပေမည်။ အခြားသူများက မိမိတို့ ကောင်းမှုကုသိုလ်များ အစား အရှင်မြတ် ချီးမြှင့်သော ဆုလာဘ်များကို ရယူနေချိန်တွင် အသင်တို့သည် ဝမ်းနည်းပူဆွေးသောကအပြင် အခြားတစ်စုံတစ်ရာမျှ မရရှိသော ဘဝမျိုးနှင့် ရင်ဆိုင်ရပေမည်။ ထိုအချိန်တွင် အသင်တို့အတွက် သွေဖည်သူတို့ ရွေးချယ်သော ဆင်ခြေပေးခြင်းနည်းလမ်းမှအပ အခြားနည်းလမ်း မရှိပေ။ "အကြင်နေ့တွင် ကျူးလွန်သူတို့အား ၎င်းတို့၏ အကြောင်းပြချက်သည် အကျိုးမပေးမည်သာမက၊ ကရုဏာတော်မှ ကင်းဝေးခြင်းသည်လည်း ရှိပေမည်။ ထိုမှတစ်ပါး ၎င်းတို့အတွက်ဆိုးရွားလှသော ဌာနလည်းရှိပေမည်" (၄ဝ-၅၂)

အိုး…..အလ္လာဟ်အရှင်ကျွန်တော်မျိုးတို့အားလုံးကို ဤလမြတ်တွင် ဖရဇ်တာဝန်များနှင့် နဖိလ်များကိုပါ မြားမြောင်စွာ ပြုနိုင်စွမ်းပေး

သနားတော်မူပါ။ ထို့ပြင် ကျွန်တော်မျိုးတို့၏ နှလုံးသည်းပွတ်များကို ဒွိဟသံသယဖြစ်မှုများမှ ထိန်းသိမ်းတော်မူပါ။ ပြီးနောက် အရှင့်ကိုကျေနပ်နှစ်သက်စေမည့် အအ်မလ်များကိုလည်းပြုနိုင်စွမ်းပေးသနားတော်မူပါ။ ထို့နောက် အရှင်မြတ် သတ်မှတ်ထားသော အရာများတွင် ကျွန်တော်မျိုးတို့အတွက် အကောင်းမွန်ဆုံးပုံစံမျိုးဖြင့် ဖြစ်တည်စေတော်မူပါ။

ကေန်မုချ နှုတ်လျှာများမှ ရွတ်ဖတ်ကြသော အရာများ၊ နှလုံးသားများကို တည်ငြိမ်မှုပေးစွမ်းသော အရာများအနက်မှ အကောင်းမွန်ဆုံးသောအရာမှာ အလ္လာဟ်အရှင်မြတ်၏ စကားရပ်တော်ပင် ဖြစ်လေသည်။ ("ဆွိယာမ်" ဥပုသ်ဆောက်တည်ရန်အတွက် သတ်မှတ်ထားသည့် အနည်းငယ်မျှသော နေ့ရက်များသည်) ရမသွာန်လ ပင်ဖြစ်သည်။ (ထိုလ၌ အလ္လာဟ်အရှင်မြတ် အထံတော်မှ) ကုရ်အာန်ကျမ်းတော်မြတ်သည် ကျရောက်လာခဲ့လေသည်။ (ယင်းကုရ်အာန်ကျမ်းမြတ်သည်) လူသားခပ်သိမ်းတို့အဘို့ တရားဓမ္မ အဖြစ်လည်းကောင်း၊ တရားလမ်းမှန်ရစေသော အမှားအမှန်ကို ခွဲခြားသိစေသော ထင်ရှားလှသည့် သက်သေလက္ခဏာများ အဖြစ်လည်းကောင်း (ကျရောက်လာသောကျမ်းမြတ်ပင်တည်း)။ သို့ဖြစ်လေရာ အသင်တို့အနက်မှ မည်သူမဆို ထို(ရမသွာန်) လမြတ်နှင့် ကြုံကြိုက်ခဲ့ပါလျှင် ထို့သူသည် ၎င်းလမြတ်၌ (တလပတ်လုံး) ဥပုသ်သီတင်းဆောက်တည်ရပေမည်။ သို့ရာတွင် အကြင်သူ တစ်ဦးတစ်ယောက်သည် တစ်စုံတစ်ရာ ဝေဒနာစွဲကပ်

၍ မကျန်းမမာဖြစ်ခဲ့သော်၊ သို့တည်းမဟုတ် ခရီးထွက်လျက်ရှိနေခဲ့သော် ထိုသူ့အပေါ် ဝယ် အခြားသောနေ့ရက်များတွင် (မိမိပျက်ကွက်ခဲ့သော ဥပုသ်ရက်များကို) တွက်စစ်၍ (ဖြည့်စွက်) ဆောက်တည်ရန် တာဝန်ရှိပေသည်။ အလ္လာဟ်အရှင်မြတ်သည် အသင်တို့အဖို့ သက်သာချောင်ချိမှုကို အလိုရှိတော်မူပေသည်။ အသင်တို့အဖို့ ခက်ခဲမှုကိုကား (အလျင်း) လိုလားတော်မူသည် မဟုတ်ချေ။ ထို့ပြင်တဝ (အလ္လာဟ်အရှင်မြတ်သည်) အသင်တို့ (ပျက်ကွက်ခဲ့သော နေ့ရက်) အရေအတွက်ကို ပြည့်စုံအောင်ပြုစေရန်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်အား ထိုအရှင်မြတ်ညွှန်ပြတော်မူသော နည်းလမ်းအတိုင်း ကြီးကဲမြင့်မြတ်တော်မူကြောင်း ရွတ်ဆိုကြရန်လည်းကောင်း(အလိုဆန္ဒ ရှိတော်မူသည်)၊ သို့မှသာလျှင် အသင်တို့သည် (ထိုအရှင်မြတ်၏) ကျေးဇူးကို သိသောသူများ ဖြစ်ကြရာသည်" (၂-၁၈၅)

## ရမသွာန်လ

## ရမသွာန်လ၏ ထွတ်မြတ်ကြောင်းခွသ်ဗဟ်

ချီးမွမ်းထောမနာပြုခြင်း အပေါင်းသည် အလ္လာဟ်အရှင်မြတ် တစ်ပါးတည်း အတွက်သာ ဖြစ်တော်မူပါ၏။ ထိုအရှင်မြတ်သည် မိမိကိုသိရှိစေနိုင် မည့်အသိတရားကို လူသားတို့၏ နှလုံးသားတွင်း၀ယ် ထည့်သွင်းပေးသနားတော်မူပါသည်။ ၎င်းနှလုံးသားတို့သည် အလ္လာဟ် အရှင်မြတ်အား တသခြင်းဖြင့်သာ တည်ငြိမ်အေးချမ်းမှုကို ရရှိကြပါသည်။ ထို့နောက် အလ္လာဟ်အရှင်မြတ်သည် မိမိ၏ နေ့အ်မသ်တော်များကို လူသားတို့အား ပြည့်ပြည့်ဝဝ ချီးမြှင့်တော်မူလေသည်။ ၎င်းနောက် မိမိချီးမြှင့်ထားသော နေ့အ်မသ်များ အပေါ်ဝယ် အရှင့်အား ကျေးဇူးတင်ကြောင်း မွြက်ဟရန် အမိန့်လည်းပေးထားပါသည်။ စင်စစ် ဤတာ၀န်ကို အလ္လာဟ်အရှင်မြတ်က မိုးကောင်းကင်နှင့် ပထဝီမြေကို ပေးခဲ့လေ၏။ သို့သော် ၎င်းတို့က ဤတာ၀န်ကို ငြင်းဆန်ခဲ့ကြလေသည်။

ကျွန်တော်မျိုးသည် အလ္လာဟ်အရှင်မြတ် ချီးမြှင့်ထားသော ဤနေ့အ်မသ်များ အပေါ်ဝယ် အရှင့်အား ချီးမွမ်းထောမနာ ပြုပါ၏။ ထို့နောက် အရှင်မြတ်က ကျွန်တော်မျိုးတို့အပေါ် ပြုထားသော ကျေးဇူးတော်များ အတွက်လည်း အရှင်မြတ်အား ချီးမွမ်းထောမနာ ပြုပါ၏။ ထို့နောက် အလ္လာဟ်အရှင်မြတ်မှ တစ်ပါး အခြားခဝပ်ကိုးကွယ်ရာအရှင် မရှိကြောင်းနှင့် အရှင်မြတ်နှင့်အတူတကွ ယှဉ်တွဲ ကိုးကွယ်ရာ အရှင်မရှိ

ကြောင်းကို ကျွန်တော်မျိုး သက်သေခံပါ၏။ ထို့ပြင် ကိုယ်တော်မြတ် (ﷺ) သည် အလ္လာဟ်အရှင်မြတ်စေလွှတ်တော်မူသော ရစူလ်စေတမန် ဖြစ်ကြောင်းကိုလည်း ကျွန်တော်မျိုးသက်သေခံပါ၏။ အလ္လာဟ်အရှင် မြတ်သည် ကိုယ်တော်သခင်ကို မှန်ကန်သော ကျမ်းဂန်ဖြစ်သည့် ကုရ် အာန်ကျမ်းမြတ်ကို ပေးသနားတော်မူပြီး မိမိ၏ ရစူလ်စေတမန်အဖြစ် စေလွှတ်တော်မူခဲ့သည်။ ဤကုရ်အာန်ကျမ်းတော်မြတ်သည် မိမိ၏ အ လျှင်မှာ ရှိခဲ့ကြသော သောင်ရားသ်ကျမ်း၊ အင်ဂျီးလ်ကျမ်း၊ ဇဗူရ်ကျမ်း တို့ကို ထောက်ခံလေသည်။ ထို့နောက် ကိုယ်တော်မြတ် (ﷺ) သခင် သည်လည်း ဤကျမ်းတော်မြတ်ကုရ်အာန်ကို အကြောင်းပြု၍ ဒွိဟသံ သယများကို ရှင်းလင်းပြသပေးတော်မူ၏။ ထို့နောက် ဘဝအခက်အခဲ ပေါင်းစုံ၏ အဖြေကိုလည်း ဤကုရ်အာန်ကျမ်းတော်မြတ်ထဲမှပင် ထုတ် နုတ် တင်ပြပေးလေသည်။ ထို့ပြင် နှိုးဆော်၍တစ်မျိုး ခြိမ်းခြောက် ၍တဖုံ လူသားထုတစ်ရပ်လုံးအား အလ္လာဟ်အရှင်မြတ်ဘက်တော်သို့ ဖိတ်ခေါ်လေ၏။ ၎င်းနောက် အလ္လာဟ်အရှင်မြတ်၏အမိန့်နာခံမှု၌ ပေါ့ လျော့မှုပြုခြင်းမှ တားမြစ်တော်မူပြီး အရှင်မြတ်၏အမိန့်နာခံမှုအောက် မှာပင် မိမိတို့ဘဝကို ကုန်ဆုံးစေရန် အမိန့်ပေးလေ၏။ ကိုယ်တော်နှင့် ကိုယ်တော်သခင်၏မိသားစုအပါ်ဝယ် အလ္လာဟ်အရှင်မြတ်ဘက်တော်မှ ကောင်းချီးမင်္ဂလာအပေါင်း ကျရောက်ပါစေ။

အိုး...အီမာန်ရှင်အပေါင်းတို့.... အသင့်တို့သည် တမလွန်ခရီးအ တွက် ပြင်ဆင်ကြလေကုန်။ မုချ ၎င်းခရီးကိုနှင်ရန် အလွန်နီးကပ်လာ

လေပြီ။ ထို့နောက် ကုသမှုပြုခွင့်ရတုန်း မိမိတို့၏ အကုသိုလ်ကျူးလွန်သည့် ရောဂါဆိုးများ ကို အလျှင်အမြန် ကုသကြလေကုန်။ ကေန်စင်စစ် ဤလသည် လအပေါင်း ၏ခေါင်းဆောင်ဖြစ်သကဲ့သို့ နှလုံးသားပေါ်လွှမ်းမိုးနေသော အကုသိုလ်ညစ်ထေးမှုများကို ဖယ်ရှားပေးသော လလည်းဖြစ်သည်။ ထို့နောက် ဤလသည် အပြစ်ကျူးလွန်သူကို ငရဲနှင့်အကုသိုလ်ဝဲဂယက်ထဲမှ ကယ်တင်ပေးသော လ ဖြစ်သည်။ သို့သာမက ဤလတွင် ကိစ္စရပ်တိုင်းကို အလ္လာဟ်အရှင့်ဘက်တော်မှ စီရင်ဆုံးဖြတ်မည့် ညဥ့်သည်လည်း တည်ရှိပေသည်။ ဤညဥ့်ကို အလ္လာဟ်အရှင်မြတ်သခင်က လပေါင်း တစ်ထောင်ထက် သာပို မွန်မြတ်စေတော်မူထားပေသည်။ ထို့နောက် ဤညဥ့်တွင်အလ္လာဟ်အရှင်မြတ်သည် မိမိကရုဏာတော်သက်သက်ဖြင့် လူတို့အပေါ်ဝယ် ၎င်းညဥ့်၏ ဖဂျ်ရ် အချိန်ထိ ငြိမ်းချမ်းမှု အပေါင်းကို ချပေးသနားတော်မူလေသည်။ ထို့ညဥ့်၌ အလ္လာဟ်အရှင်ထံပြန်လှည့်သူကို အရှင်မြတ်က ၎င်းသူကျေနပ်နှစ်သက်သော အရာများကို ချီးမြှင့်တော်မူပြီး လက်ခံတော်မူလေသည်။ ထို့ကဲ့သို့ အရှင်မြတ်ဘက်တော်မှ ချီးမြှင့်မည့်ဆုလာဘ်များကို သိရှိပြီးနောက်သွားလေသူများကို သံဝေဂယူကာ အအ်မလ်များ ပြုကျင့်ကြမည့်သူတို့ရှိလာနိုင်မည်မဟုတ်ပါလော? တည်မြဲမှု မရှိသော ဤလောကကြီး၏ အဖြစ်အပျက်များ၊ နေ့ညဥ့် ပြောင်းလဲသွားခြင်းကို ကြည့်၍ ဆင်ခြင်တုံတရားထားရှိမည့်သူတို့ ရှိလာနိုင်မည်မဟုတ်ပါလော? သို့မဟုတ် အသင်တို့သည် အလ္လာဟ်အရှင်မြတ်၏ ဤအာယသ်တော်ကို မေ့လျော့နေ

ကြပါလော?...."ဤမျက်မှောက် လောကီဘဝသည် အနည်းငယ်မျှ အကျိုးကျေးဇူး ခံစားမှုသာ ဖြစ်ပေသည်။ သို့ရာတွင် အာခိရသ် တမလွန်ဘဝမှာမူကား ယင်းသည်သာလျှင် ဧကန်စင်စစ် အမြဲ နေထိုင်ရန်ဌာန ဖြစ်၏" (၄၀-၃၉)

အိုး.... မျှော်လင့်ချက်များနှင့် မိန်းမောနေသူ၊ သေးခြင်းတရားကို သတိမေ့နေသူ....အသင် ကောင်းမှုကုသိုလ်ပြုရန် အချိန်တန်လေပြီ။ ထို့နောက် တမလွန်တွင် ကောင်းမွန်သော အဆင့်အတန်းများရရန် ပြင်ဆင်ပါလေ။ ဤနေ့ရက်များက အသင့်ဘဝ၏ နောက်ဆုံးနေ့ရက်များ ဖြစ်နိုင်သလို အသင်သည် ဤလမြတ်ကို နောင်နှစ်တွင် ကြုံဆုံခွင့်မရရှိနိုင်တော့မှာလည်း ဖြစ်နိုင်ပါသည်။

မိမိ နှလုံးသားကို မေ့လျော့မှုများမှ လှုပ်နှိုး၍ ကောင်းမွန်သော ကိစ္စရပ်များတွင် အသုံးချခဲ့သူကို အလ္လာဟ်အရှင် ကရုဏာသက်တော်မူပါစေ။ အကယ်၍ အချိန်မီ မိမိနှလုံးသားကို မေ့လျော့မှုများမှ မနှိုးခဲ့ပါမူ အကြင်သူသည် ဆုံးရှုံးမှုအပေါင်းနှင့် ရင်ဆိုင်ရမည် ဖြစ်သည်။ ထို့နောက် ၎င်းသည် အထီးကျန်ဆန်လွန်းသော ဌာနီ (ကဗရ်စခန်း) နှင့် ကြုံကြိုက်ရမည် ဖြစ်ပါသည်။ ထိုအခါ ၎င်း၏ အကြောင်းပြချက်ပေးမှုကို မည်သူတစ်ဦးတစ်ယောက်ကမျှ နားထောင်ပေးမည် မဟုတ်ပေ။ ထို့ကြောင့် ၎င်း၏ မျှော်လင့်ချက် အနာဂတ်များ ပျက်သုဉ်းလေပြီ။ ၎င်းသူအမြဲရှင်သန်ရမည်ဟု တွေးထင်ထားသော ဘဝကြီးသည်လည်း ပျောက်ကွယ်ခဲ့လေပြီ။ ထိုသူ၏ ကိုယ်ခန္ဓာလည်း ဆွေးမြေ့လာလေပြီ။

ထို့ပြင် ဤသူ၏လောကတွင် ကျော်ကြားခဲ့သော ဂုဏ်သတင်းများလည်း တစ်စတစ်စ ပျောက်ကွယ်လာလေပြီ။ ထို့နောက် မိမိထက်အလျှင် မသမာသူတို့သွားလေရာ လမ်းစဉ်အတိုင်း လျှောက်လှမ်းရပေတော့မည်။ အိုး....မျှော်လင့်ချက်များ၏ လှည့်ဖြားခံနေရသူအပေါင်းတို့........ဤလမ်းသည် အသင်တို့ မကြာမီ လျှောက်လှမ်းရမည့် လမ်းပင်ဖြစ်၏။ "သို့ဖြစ်ပေရာ ဤသည် စုန်းပယောဂ ဖြစ်လေသလော၊ သို့တည်းမဟုတ် အသင်တို့သည် (ယခုတိုင်) မမြင်ကြလေသလော" (၅၂-၁၅) "သို့ဖြစ်ပေရာ မိုးကောင်းကင်ကိုလည်းကောင်း၊ ပထဝီမြေကိုလည်းကောင်း၊ ဖန်ဆင်းတော်မူသောအရှင်မြတ်၏ (ကစမ်)၊ ယင်း (ကိယာမသ် ဖြစ်ခြင်း၊ စားနပ်ရိက္ခာရရှိခြင်း၊ တမလွန်ဘဝ ဆိုက်ရောက်ခြင်း နှင့် အလ္လာဟ်အရှင်မြတ်၏ ကတိတော်အတိုင်း စံစား၊ ခံစားခြင်းတို့) သည် အသင်တို့ စကားပြောဆိုကြဘိ သကဲ့သို့ပင် မှန်ကန်လှပေသတည်း" (၅၁-၂၃)

အလ္လာဟ်အရှင်မြတ် ကျွန်တော်မျိုးတို့အားလုံးအား မှန်ကန်သည့် လမ်းပေါ်မှာ လျှောက်လှမ်းနိုင်စွမ်းပေးသနားတော်မူပါစေ။ ထို့နောက် သက္ကဝါတရား၏ဝတ်ရုံကို ဆင်မြန်းပေးသနားတော်မူပါစေ။ ပြီးနောက် အလ္လာဟ် အရှင်မြတ်သည် ကျွန်တော်တို့ကို လမ်းမှားသူတို့အနက်မှ မပြုရန် အရှင်မြတ်ထံတော်၌ တောင်းဆုပြုပါသည်။

ကလောင်ဖြင့်ရေးသားမှတ်တမ်းတင်ခံရသော အရာများအနက်မှ အကောင်းမွန်ဆုံးအရာမှာ အလ္လာဟ်အရှင်မြတ်၏ စကားရပ်တော်ပင်

ဖြစ်ပါသည်။ "ဧကန်မလွဲ ငါအရှင်မြတ်သည်ပင် ယင်းကုရ်အာန်ကျမ်းတော်မြတ်ကို "လိုင်လသုလ်ကဒ်ရ်" မြင့်မြတ်သောညဥ့်၌ ချပေးသနားတော်မူခဲ့၏။ စင်စစ် "လိုင်လသုလ်ကဒ်ရ်" မြင့်မြတ်သော ညဥ့်သည် အဘယ်နည်းဟု အသင်သိပါသလော။ "လိုင်လသွလ်ကဒ်ရ်" မြင့်မြတ်သော ညဥ့်ကား လပေါင်းတစ်ထောင်ထက်ပင် ပိုမို၍ ကောင်းမြတ်လှ၏။ ထိုညဥ့်၌ ကောင်းကင်တမန်များသည်လည်းကောင်း၊ ကောင်းကင်တမန် ဂျစ်ဗ်ရိလ်သည်လည်းကောင်း၊ မိမိတို့အား ဖန်ဆင်းမွေးမြူသော အရှင်မြတ် အမိန့်တော်ဖြင့် ကောင်းမြတ်သော အရေးကိစ္စအသီးသီးကို ယူဆောင်၍ ဆင်းသက်လာကြကုန်၏။ ထိုညဥ့်ကား နံနက်မိုးသောက်ချိန်တိုင် ငြိမ်းချမ်းသောညဥ့်ပင် ဖြစ်ချေသတည်း။ (ငြိမ်းချမ်းမှုချည်းသာတည်း)" (၉၇-၅)

## ရမသွာန်လ
## တတိယ ခွဲသ်ဗဟ်

ချီးမွမ်းထောမနာပြုခြင်းအပေါင်းသည် အလ္လာဟ်အရှင်မြတ် တစ်ပါးတည်းအတွက်သာ ဖြစ်တော်မူပါသည်။ ထို့အရှင်မြတ်၏ အပြစ် ဒဏ်ခတ်မှုသည် အလွန်ပင် ကြောက်မတ်ဖွယ်ကောင်းလှပေသည်။ သို့ သော် ထိုအရှင်မြတ်၏ လွတ်ငြိမ်းချမ်းသာပေးမှုသည်လည်း အလွန်ပင် နှစ်လိုဖွယ်ကောင်းလှပေသည်။ ထိုအလ္လာဟ်အရှင်မြတ်က မိမိကို ကြောက်ရွံ့သူတို့၏နှလုံးသားအား ငြိမ်းချမ်းသာယာမှုအပေါင်းဖြင့် ကွန့် မြူးစေသည်။ ထို့နောက် မိမိကို သတိရတသပြီး အမိန့်နာခံသူတိုင်းကို မြင့်မားလှသော အဆင့်အတန်းများ ချီးမြှင့်တော်မူလေသည်။ ပြီး နောက် ထိုအရှင်မြတ်သည် မိမိ၏ချီးမြှင့်မြောက်စားမှုအပေါ် (ရွှတ် ကုရ်)ကျေးဇူးတင်သူများကို ကျေးဇူးပြုတော်မူလေသည်။ ထို့ပြင် အရှင်မြတ်ထံတော်မှအပ အခြားခိုလှုံရာ နေရာမရှိသကဲ့သို့ အရှင် မြတ်သည်သာလျှင် အရာခပ်သိမ်းကို နိုင်နင်းလွှမ်းမိုးတော်မူသော အ ရှင်ဖြစ်တော်မူပါသည်။ ၎င်းနောက် အရှင်မြတ်သည် ကျွန်တော်မျိုးတို့ ကို အမြဲတစေ ထိန်းသိမ်းစောင့်ရှောက်မှုပြုသောကြောင့် အရှင့်အား ကျွန်တော်မျိုးတို့ ချီးမွမ်းထောမနာ ပြုပါသည်။ ထို့နောက် အရှင် မြတ်၏ သတ်မှတ်ချက်တိုင်းကို ကိုယ်စိတ်နှလုံးသုံးပါးဖြင့် အပြည့်အဝ ဝန်ခံကြောင်း မြွက်ဟပါသည်။

အလ္လာဟ်အရှင်မြတ်မှ တစ်ပါး အခြားခဝပ်ကိုးကွယ်ရာ အရှင်မရှိကြောင်းနှင့် ထိုအရှင်မြတ်နှင့် အတူ ယှဉ်တွဲ ကိုးကွယ်ခြင်းခံထိုက်တော်မူသောသူ မရှိကြောင်းကို ကျွန်တော်မျိုး သက်သေခံပါ၏။ ထိုအရှင်မြတ်သည် လောကီ လောကုတ္တရာ နှစ်ဌာနလုံး၏ ကရုဏာရှင်ဖြစ်တော်မူပါသည်။ ထို့ပြင် အရှင်မြတ်သည် အရာခပ်သိမ်းကို နိုင်နင်းလွှမ်းမိုးတော်မူသော အရှင်ဖြစ်ပါသည်။ ထို့နောက် တမန်တော်မုဟမ္မဒ် (ﷺ)သခင်သည် အရှင်မြတ်၏ ဗန္ဒာဟ်အစေတော်နှင့် ရစူလ်တမန်တော်ဖြစ်ကြောင်းကို ကျွန်တော်မျိုးသက်သေခံပါ၏။ အလ္လာဟ်အရှင်မြတ်သည် သွေဖည်မှုများ အရိုးစွဲနေသော အွမ္မသ်ဆီသို့ ကိုယ်တော်သခင့်ကို ရစူလ်တမန်တော်အဖြစ် စေလွှတ်တော်မူခဲ့သည်။ ၎င်းသူတို့သည် မိမိတို့၏ သွေဖည်မှုများတွင် အဘယ်လောက် အရိုးစွဲနေသည်ဆိုလျှင် မိုက်မဲသူက မိမိ၏ မိုက်မဲမှုမှာပင် ပျော်မွေ့နေကြသည်။ ထို့နောက် ရုပ်ထုဆင်းတု ကိုးကွယ်မှုသည် ၎င်းတို့၏ ဂုဏ်ဆောင်အမှတ်အသားတစ်ခုဖြစ်နေလေသည်။ ဤသို့ဖြစ်ပျက်နေသော ပတ်ဝန်းကျင်ကြီးတွင် အလ္လာဟ်အရှင်မြတ်သည် မိမိ၏ ရစူလ်စေတမန်ဖြစ်သော ကိုယ်တော်မြတ်(ﷺ)ကို စေလွှတ်တော်မူပြီး ပြုပြင်ပြောင်းလဲစေတော်မူခဲ့လေသည်။ ထို့နောက် အရှင်မြတ်သည် အမှောင်ထုများလွှမ်းမိုးနေသော ပတ်ဝန်းကျင်ကို ကိုယ်တော်မြတ် (ﷺ) ၏ လမ်းပြမှုဖြင့် လင်းဝင်းတောက်ပ စေတော်မူခဲ့လေသည်။ ထို့ပြင် အမှန်တရားကိုလည်း တည်မြဲစေတော်မူခဲ့လေသည်။ ကိုယ်တော်မြတ်နှင့် ကိုယ်တော်မြတ် (ﷺ)၏

မိသားစုဝင်များအပေါ်ဝယ် အလ္လာဟ်အရှင်မြတ်ဘက်တော်မှ ကောင်း ချီးမင်္ဂလာအပေါင်းကျရောက်ပါစေ။

အိုး....အီမာန်သက်ဝင်ယုံကြည်ကြသူအပေါင်းတို့....မုချခရီးရှည် နှင်ရမည့် သူသည် မိမိအတွက်ရိက္ခာကို စုဆောင်းမှုမပြုဘဲ နေမည် မ ဟုတ်သကဲ့သို့ မိမိလျှောက်လှမ်းရမည့် နောင်တမလွန်ဘဝခရီးကိုသိရှိ နေသူသည်လည်း အအ်မလ်မပြုဘဲ ပျင်းရိစွာ နေမည်မဟုတ်ပေ။ ထို သို့သိရှိပြီးနောက် အအ်မလ်များပြုရန် ဆိုင်းငံ့နေသူသည် ၎င်းသူတွေ့ မြင်နေရသောအရာများတွင် သံသယဝင်နေသည်လား? သို့မဟုတ် ၎င်း ၏ နှလုံးသားအမြင်အာရုံပျောက်ကွယ်နေသည်လား? သို့မဟုတ် မိမိ မျက်ဝါးထင်ထင်မြင်တွေ့နေရသော အရာများကို ထင်ယောင်ထင်မှား ဖြစ်နေပြီလား???၊ ၎င်းသည် ကုရ်အာန်ကျမ်းတော်မြတ်၏ ဖိတ်ခေါ်သံ ကို စွန့်လွှတ်မျက်ကွယ်ပြုထားသည်လား?၊ ၎င်းသည် ကုန်ဆုံးသွား သော နေ့ရက်များကို ပြန်လည် ရယူနိုင်စွမ်းရှိ၍ ထိုသို့ပြုမူနေခြင်း လော? ထိုအရာများသည် ၎င်းသူအတွက် မည်သို့မှ မဖြစ်နိုင်ပါ။ မုချ အအ်မလ်မပြုကျင့်ခဲ့သူသည် မိမိ၏ ပေါ့လျော့ခြင်း၏ အစားကို ရရှိမှာ ဖြစ်ပြီး လွဲဖယ်မရသော သေခြင်းတရားနှင့် ကြုံကြိုက်ရမှာ ဖြစ်ပါ သည်။ ထို့နောက် လောကကို တဖန်ပြန်လှည့်ခွင့်မရှိသော ဠာနီသို့ သွား ရောက်ရမည်သာ ဖြစ်သည်။ ထို့နောက် မိမိပြုကျင့်ခဲ့သောကောင်းမှု၊ မကောင်းမှုများ၏ အကျိုးတရားများကို ခံစား၊ စံစားရမည် ဖြစ်သည်။

အိုး...အလ္လာဟ်အရှင်၏ ကျေးကျွန်အပေါင်းတို့....... ဤရမသွာန် လမြတ်သည် အသင်တို့ကို နှုတ်ဆက်ထွက်ခွာရန် နီးကပ်လေပြီ။ ဤလမြတ်သည် မကြာမီမှာပင် ထွက်ခွာသွားတော့မည်။ အိုး....အသိဉာဏ်ရှိသူအပေါင်းတို့....ညဥ့်၏ အမှောင်ထုအောက်တွင် အရှင့်အား ကြောက်ရွံ့ပြီးငိုကြွေးကြသူတို့ အဘယ်မည်နည်း?၊ ကေယာမသ်နေ့တွင် စစ်ကြောမေးမြန်းခံရမည်ကို စိုးရွံ့၍ ဤလမြတ်ရမသွာန်တွင် အပတ်တကုတ်ကြိုးစားမည့် သူများ အဘယ်မည်နည်း? သတိချပ်ကြလေကုန်..... အမှန်ပင် ဤလမြတ်ကြီးသည် မုချထွက်ခွာသွားတော့မည်ဖြစ်သလို အသင်တို့သည်လည်း ဤလမြတ် ရမသွာန်ကြီးကို မုချနှုတ်ဆက်ကြရတော့မည် ဖြစ်သည်။ ထို့ကြောင့် ဤလမြတ်၏ ကျန်ရှိနေသောနေ့ရက်များတွင် အအ်မလ်များနှင့် မွေ့လျော်ကြလေကုန်။ ဧကန်စင်စစ် ဖရဇ်နမားဇ်တစ်ကြိမ်ကို ကဇ္ဇာပြန်ဖတ်ခြင်းသည် ၎င်းနမားဇ်ကို သူ့အချိန်၌ တာဝန်ချသည့်အတိုင်း မဖြစ်နိုင်သကဲ့သို့ ဤလမြတ်တွင် မပြုဖြစ်ခဲ့သော အအ်မလ်များကို အခြားလတွင် အစားထိုး ပြုကျင့်ပါကလည်း ဤလ၌ ပြုသကဲ့သို့ မဖြစ်နိုင်ပေ။ ဤလမြတ်တွင် နှလုံးသည်းပွတ်များသည် အလ္လာဟ်အရှင်အား အကြောက်တရားများနှင့် ပြည့်နှက်နေပေသည်။ ထို့နောက် ဤလသည် အလ္လာဟ်အရှင်ဘက်တော်မှ အပြစ်များကို လွတ်ငြိမ်းချမ်းသာခွင့်ပေးသော လဖြစ်သည်။ ပြီးနောက် ဤလ၌ ဗလီများတွင် အေဗာဒသ်ပြုသူများနှင့် စည်ကားသိုက်မြိုက်ကြသကဲ့သို့ ကောင်းကင်တမန်များကလည်း ဤလတွင် အလ္လာဟ်

အရှင်ဘက်တော်မှ အပါယ်ငရဲမီးမှ လွတ်ငြိမ်းခွင့်လက်မှတ်များကို ယူဆောင်ကာ ဆင်းသက်သော လ လည်းဖြစ်၏။ အသင်တို့အနက်မှ အများစုသည် လာမည့်နှစ် ရမသွာန်လမြတ်ကို ကြုံကြိုက်ခွင့်မရဘဲ အလ္လာဟ်အရှင်ထံတော်ပါးသို့ ပြန်သွားရတာမျိုးလည်း ဖြစ်နိုင်ပါသည်။ ထိုသို့ဆိုလျှင် ဤရမသွာန်လ၏ နေ့ရက်များမှာ ပေါ့လျော့ခဲ့သူသည် ဆုံးရှုံးရလေပြီ။ ထို့ပြင် ၎င်း၏ ဆုံးရှုံးမှုကြီးသည် ကေယာမသ်နေ့၌ အအ်မလ်ပြုကျင့်သူတို့ အကျိုးစဝါးဗ်များ ရရှိချိန်တွင် အထင်းသားပေါ်လွင်လာပေတော့မည်။ ထိုအခါ ၎င်းသူ၏ နာမည်စာရင်းသည် မေ့လျော့သူများ၏ စာရင်းတွင် မှတ်တမ်းတင်ခံရလေပြီ။ ၎င်းသူအတွက် ဤကဲ့သို့ လမြတ် ရမသွာန်မျိုး ဘယ်သောအခါမျှ ရရှိတော့မည် မဟုတ်ပေ။ ထို့အခါမှ ဤလမြတ်ရမသွာန်၏တစ်ခဏတာ အချိန်သည် သူ့တစ်ဘဝတာအချိန်ထက် သာပိုကောင်းမွန်နေကြောင်း ၎င်းသူ ကြေကွဲဝမ်းနည်းစွာ သိရှိရပေလိမ့်မည်။

အိုး....အီမာန်ရှင်တို့...... အအ်မလ်ပြုကျင့်ခွင့်များ ကျန်ရှိပါသေးသည်။ ထို့နောက် ပြင်ဆင်ခွင့်များလည်းရှိနေပါသေးသည်။ ထို့ပြင် ဤလမြတ်ကြီး အသင်တို့ကို နှုတ်ဆက်မထွက်ခွာမသွားမချင်း အသင်တို့နေထိုင်ရမည့် သက်တမ်း ကျန်ရှိနေသေးသ၍ ဤလမြတ်၏ နေ့ရက်အချို့လည်း ကျန်ရှိနေပါသေးသည်။ ထို့ကြောင့် ကောင်းမှုကုသိုလ်များကို များမြောင်စွာ ပြုကြပါ။ ဤလမြတ်ရမသွာန် ကုန်ဆုံးပြီဆိုလျှင် အသင်တို့ ဤလမြတ်ကို ပြန်လည် တမ်းတလျှင်လည်း ရရှိမည် မဟုတ်

နိုင်တော့သကဲ့သို့ အလ္လာဟ်အရှင့်ဘက်တော်မှ သတ်မှတ်ချက်များ ကျ ရောက်ပြီးမှ အသင်တို့ ဤလမြတ်ကို မျှော်လင့်တောင်းတပါကလည်း ရရှိနိုင်မည် မဟုတ်တော့ပေ။ အဘယ့်ကြောင့်ဆိုသော် ဧကန်မလွဲဖြစ် တည်မည့် မရဏ သေခြင်းတရားကြီးသည် အသင်တို့ထံရောက်ရှိလာ လေပြီ။ ထိုအချိန်တွင် ယခင်ကပြောဆိုတတ်သော နှုတ်လျှာတို့ ဆွံ့အ သွားလေပြီ။ ထို့နောက် ယခင်က အမြင်အာရုံကောင်းမွန်သော မျက် ဝန်းအစုံတို့မှာလည်း စက္ခုအလင်းကွယ်ပျောက် သွားလေပြီ။ ပြီးနောက် ရုပ်ဆိုးအကျည်းတန်လွန်းသော မြင်ကွင်းများသည် မျက်ဝါးထင်ထင်ပေါ် လွင်လာခဲ့လေပြီ။ ထို့နောက်တွင် အရှက်တကွဲ အကျိုးနည်းစရာများ နှင့် ကမ္ဘာ့လူသားထုတစ်ရပ်လုံး စုရုံးရမည့် ကေယာမသ်နေ့ထိ ကဗရ် စခန်း၏ ခက်ခဲကြမ်းတမ်းသောပြစ်ဒဏ်များနှင့် ရင်ဆိုင်ကြုံတွေ့ရမည် ဖြစ်ပါသည်။ ထိုအကြောင်းအရာများနှင့် ပတ်သက်၍ သံသယရှိသူအ တွက် ကုရ်အာန်ကျမ်းတော်မြတ်လာ အာယသ်တော် တစ်ပုဒ်နှင့် အဖြေ ပေးချင်ပါသည်။ အာယသ်တော်မှာ ဤသို့ဖြစ်ပါသည်။ "ထို့ပြင် ကျွန်ုပ် မူကား မိမိအရေးကိစ္စကို အလ္လာဟ်အရှင်မြတ် အထံတော်သို့ လွှဲအပ် လိုက်ပြီ။ ဧကန်အမှန် အလ္လာဟ်အရှင်မြတ်သည် (မိမိ) ကျွန်တို့အား ကောင်းမွန်စွာ ကြည့်ရှုစောင့်ရှောက်တော်မူသော အရှင်မြတ်ပင် ဖြစ် တော်မူ၏" (၄၀-၄၄)

အလ္လာဟ်အရှင်ကျွန်တော်မျိုးတို့အားလုံးကို ဤလမြတ်၌ အ ချည်းအနှီးဖြစ်စေမည့်ကိစ္စရပ်များတွင် နစ်မွန်း၍ ကုန်ဆုံးခြင်းမှ ထိန်း

သိမ်းတော်မူပါစေ။ ထို့နောက် အရှင်မြတ်၏ ကရုဏာမိုးများ ကျွန်တော်မျိုးတို့ အပေါ်ရွာသွန်းဖြိုးပေးသနားတော်မူပါစေ။ ထို့ပြင် ဤလ၏ ကျန်ရှိသော နေ့ရက်များတွင် ကုသိုလ်ကောင်းမှုများ ပြုလုပ်နိုင်စွမ်းပေးသနားတော်မူပါစေ။ ပြီးနောက် အရှင်မြတ်အား ကြောက်ရွံ့သူတို့ လျှောက်လှမ်းသော လမ်းစဉ်အတိုင်း ဖဝါးခြေထပ်လိုက်နိုင်စွမ်းပေးသနားတော်မူပါစေ။

အမွန်မြတ်ဆုံးနှင့် ရှင်းလင်းပြတ်သားဆုံးသော စကားရပ်မှာ တရားမျှတမှုရှိရှိ ဆုံးဖြတ်တော်မူသော အလ္လာဟ်အရှင်မြတ်၏ ကုရ်အာန်ကျမ်းတော်မြတ်ပင် ဖြစ်ပါသည်။ "မုအ်မင်န် သက်ဝင်ယုံကြည်သူတို့အတွက် အလ္လာဟ်အရှင်မြတ်၏ ဆုံးမသြဝါဒ သတိပေး နှိုးဆော်ချက်၏ ရှေ့ဝယ်လည်းကောင်း၊ ကျရောက်လာပြီး ဖြစ်သော အမှန်တရား၏ ရှေ့ဝယ်လည်းကောင်း၊ စိတ်နှလုံးများ ကိုင်းညွတ်ရန် အချိန်တန်ပြီ မဟုတ်ပါလော။ ထိုမှတစ်ပါး ၎င်းတို့သည် အကြင်သူတို့ကဲ့သို့ မဖြစ်ကြရန်။ ထိုသူတို့သည် ကျမ်းဂန်ကို ချီးမြှင့် ပေးသနားတော်မူခြင်းခံခဲ့ရလေ၏။ သို့ရာတွင် ၎င်းတို့အပေါ်ဝယ် ကာလပရိစ္ဆေဒသည် အခွန့်ရှည်ခဲ့သောအခါ၊ ၎င်းတို့၏ စိတ်နှလုံးမှာ ခက်ထန်မာမြင်း၍ လာခဲ့လေ၏။ ထိုမှတစ်ပါး ၎င်းတို့တွင် မြောက်မြားစွာတို့မှာ သွေဖည်သူများပင် ဖြစ်ကြကုန်၏" (၅၇-၁၆)

# ရမသွာန်လမြတ်

## ရမသွာန်လမြတ်အား နှုတ်ဆက်ခွဲခွာခြင်းခွင်ဗဟ်

ချီးမွမ်းထောမနာပြုခြင်းအပေါင်းသည် အလွန် ပေးကမ်းစွန့်ကြဲတော်မူသော တစ်ပါးတည်းအရှင်အတွက်သာ ဖြစ်တော်မူပါသည်။ ထိုအရှင်မြတ်သည် မိမိ၏ဆုံးဖြတ်ချက်များကို ယတိပြတ်အကောင်အထည် ဖော်တော်မူသော အရှင်ဖြစ်သကဲ့သို့ အရှင်မြတ်သည် အရာခပ်သိမ်းကို နိုင်နင်းလွှမ်းမိုးတော်မူသော အရှင်လည်း ဖြစ်တော်မူပေသည်။ အကြင်အရှင်မြတ်၏ ကရုဏာနှင့် အရှင်မြတ်ချီးမြင့်တော်မူသော နေ့အ်မသ်များသည် အရာအားလုံးကို လွှမ်းခြုံတော်မူထားပါသည်။ ထို့နောက် အရှင်မြတ်သည် အလွန်တရာ အင်အားကြီးမားတော်မူသော အရှင်ဖြစ်သကဲ့သို့ အလွန်ပင် ကျေးဇူးကြီးမားတော်မူသော အရှင်လည်းဖြစ်တော်မူသည်။ အရှင်သည်သာလျှင် ခဝပ်ကိုးကွယ်ခံထိုက်သောအရှင်ဖြစ်တော်မူပါသည်။ အရှင်မြတ်သည်သာလျှင် တူဆင်မှုအပေါင်းမှ ကင်းစင်တော်မူပါသည်။ ထိုအရှင်မြတ်သည် အစ္စလာမ်သာသနာတော်ကို အခြားသော ဘာသာတရားများထက် မြင့်မားစေတော်မူထားပေသည်။ ထို့နောက် မိမိ၏ချစ်နဗီနှင့် လူသားအားလုံးကို တရားလမ်းမှန်ပြသပေးသနားတော်မူပြီး လမ်းမှားခြင်း၏မှောင်မိုက်မှုများကိုလည်း ဖယ်ရှားပေးသနားတော်မူပေသည်။ ထို့ကြောင့် ကျွန်တော်မျိုးတို့အားလုံးသည် အလ္လာဟ်အရှင်မြတ်ကို ရိုကျိုးစွာဖြင့် ချီးမွမ်းထောမနာပြုရန် ထိုက်သက်ပေသည်။ သို့ရှိရာ ကျွန်တော်မျိုးတို့သည် အလ္လာဟ်အရှင်မြတ်ကို

သာလျှင် ချီးမွမ်းထောမနာ ပြုပါသည်။ ထို့နောက် အရှင်မြတ်ပြုသ သော လမ်းမှန်ဖြင့်သာ ကျွန်တော်မျိုးတို့ တရားလမ်းမှန် ရရှိကြခြင်းဖြစ် ပါသည်။ ထို့အတွက်ကြောင့် ကျွန်တော်မျိုးတို့အားလုံးသည် အရှင်ထံ တော်ပါးမှာပင် တောင်းခံမှုပြုသလို အရှင်မြတ်၏ ကုန်ခမ်းမှုမရှိသော ဘဏ္ဍာတိုက်မှ အရှင်မြတ်၏ ကျေနပ်နှစ်သက်မှုကြောင့်ရရှိမည့် ဆု လာဘ်များကိုလည်း တောင်းခံပါသည်။ အရှင်မြတ်သည်သာ အဦးဆုံး ဖြစ်တော်မူသကဲ့သို့ အရှင်မြတ်ထံတော်ပါးသို့ပင် အားလုံးသည် ပြန် လှည့်ရမည် ဖြစ်သည်။ အိုး.....အလ္လာဟ်အရှင်မြတ် .....ကျွန်တော်မျိုး တို့ဘက်မှ ကိုယ်တော်မြတ်(ﷺ)ထံသို့ ဆွလဝသ်ဆလာမ်းများကို ပို့သ ပေးတော်မူပါ။ မုချ ကိုယ်တော်သခင်သည် မိမိ၏ ရေဆာလသ် (လူ သားထုတစ်ရပ်လုံးကို အလ္လာဟ်အရှင့်ဘက်တော်သို့ဖိတ်ခေါ်ခြင်း) တာ ဝန်ကို ပြည့်ပြည့်ဝဝ ကျေပွန်သကဲ့သို့ မိမိထံအပ်နှင်းခံထားရသော အ မာနသ်တာဝန်ကိုလည်း လူသားထုတစ်ရပ်လုံးထံသို့ ပို့ဆောင်ပေးခဲ့ပါ သည်။ မုချကေန် ကိုယ်တော်မြတ်(ﷺ)သည် ကမ္ဘာ့လူသားထုတစ်ရပ် လုံး အီမာန်သက်ဝင် ယုံကြည်ရန်အတွက် ဆန္ဒပြင်းပြခဲ့ပြီး အထူးသဖြင့် မုအ်မင်န်များကို ကရုဏာ သက်တော်မူခဲ့သူဖြစ်ပါသည်။ အိုး......... အလ္လာဟ်အရှင်...အရှင်မြတ်သည် ကိုယ်တော်မြတ်(ﷺ)ကို အမှန်တ ရားအတွက် မီးရှူးတန်ဆောင်အဖြစ် ပြုပေးသကဲ့သို့၊ ကိုယ်တော်မြတ် ကို အကြောင်းခံပြီး လမ်းမှန်တရားကို ထွန်းထောက်စေသကဲ့သို့၊ ကိုယ် တော်သခင်ကိုရွေးချယ်ပြီး မိမိနှင့် နီးကပ်ခွင့်ကို ချီးမြှင့်ထားသကဲ့သို့

ကျွန်တော်မျိုးတို့ကိုလည်း အရှင်မြတ် ဤသို့ပြုပေးသနားတော်မူပါ။ ထို့နောက် ကိုယ်တော်မြတ်(ﷺ)နှင့် ကိုယ်တော်မြတ်၏ မိသားစုဝင်များ အပေါ်၌ နေ့နှင့်ညဥ့်တည်နေသ၍ အလ္လာဟ်အရှင့်ဘက်တော်မှ ကောင်းချီးမင်္ဂလာအပေါင်း ကျရောက်စေတော်မူပါ။

အိုး....အီမာန်ရှင်အပေါင်းတို့.......သတိချပ်ကြလေကုန်။ မုချ အလ္လာဟ်အရှင်မြတ်၏ နာမတော်သည် အလွန်ပင် မွန်မြတ်လှပေသည်။ ထို့ပြင် အရှင့် အမိန့်တော်များသည်လည်း အလွန်ပင် ခိုင်မာတိကျမှုရှိပေသည်။ ထို့နောက် အသင်တို့မထင်မှတ်ထားသော နေရာများမှ အလ္လာဟ်အရှင်မြတ်က အသင်တို့အပေါ် ကရုဏာသက်တော်မူနေသည် ဆိုသည်ကိုလည်း သတိရှိကြလေကုန်။ ထို့ပြင် အသင်တို့ ပြစ်မှုများ ကျူးလွန်နေသည်ကို သိလျှက်ပင် အလ္လာဟ်အရှင်မြတ်က အသင်တို့ကို မိမိ၏ ကရုဏာသက်သက်ဖြင့် ရိုဇီရိက္ခာများ အသင်တို့ကို ချီးမြှင့် ပေးသနားတော် မူထားလေသည်။ ထို့ပြင် မိမိထံပြန်လှည့်လာသူများကို အရှင်မြတ်က ပစ်မထားဘဲ သောင်ဗဟ်တံခါးများကို ဖွင့်ပေးထားသကဲ့သို့ အပြစ်ကျူးလွန်မိသည့် အတွက်ကြောင့်နောင်တရသူ၏ နောင်တလေးနှင့်ပင် အရှင်မြတ်က ကြီးမားလှသော အပြစ်များကို လွတ်ငြိမ်းချမ်းသာခွင့် ပေးတော်မူလေသည်။ မိမိအားအမိန့် ဖီဆန်သူကိုလည်း ချက်ချင်းအရေးယူမှု မပြုဘဲ သောင်ဗဟ်လုပ်ရန် အခွင့်အရေးများ ပေးထားတော်မူသည်။ ထို့ပြင် ၎င်း၏ အကုသိုလ်များကိုလည်း လူအများ မသိစေရန် မိမိ၏ ကရုဏာတော်ဖြင့် ဖုံးကွယ်ထားတော်မူပေသည်။ နေ့

ရက်များ၊ အချိန်များ၏ ထူးကဲမွန်မြတ်မှုများကိုလည်း အသင်တို့ကို ရှင်းလင်းပြသပေးတော်မူထားပေသည်။ သို့မှသာထို့နေ့ရက်၊အချိန်များတွင် အသင်တို့ ကောင်းမှုများ ပွားများနိုင်မည် ဖြစ်သည်။ ထို့နောက် အရှင်မြတ်သည် လများအနက်မှ အမွန်မြတ်ဆုံးဖြစ်သော ဤလမြတ် တွင် ကောင်းမှုကုသိုလ်များပြုရန် အသင်တို့ကိုတိုက်တွန်းထားတော်မူသည်။ ဤလမြတ်၏ ထွတ်မြတ်မှုနှင့်ပတ်သက်၍ ကုရ်အာန်ကျမ်းတော်မြတ်တွင် ဤသို့မိန့်တော်မူထားပေသည်။ ("ဆွိယာမ်" ဥပုသ်ဆောက်တည်ရန်အတွက် သတ်မှတ်ထားသည့် အနည်းငယ်မျှသော နေ့ရက်များသည်) ရမသွာန်လ ပင်ဖြစ်သည်။ (ထိုလ၌ အလ္လာဟ်အရှင်မြတ် အထံတော်မှ) ကုရ်အာန်ကျမ်းတော်မြတ် ကျရောက်လာခဲ့လေသည်။ (ယင်းကုရ်အာန်ကျမ်းမြတ်သည်) လူသားခပ်သိမ်းတို့အတွက် တရားဓမ္မ အဖြစ်လည်းကောင်း၊ တရားလမ်းမှန်ရစေသော အမှားအမှန်ကို ခွဲခြားသိစေသော ထင်ရှားလှသည့် သက်သေခံလက္ခဏာများ အဖြစ်လည်းကောင်း (ကျရောက်လာသောကျမ်းမြတ်ပင်တည်း)။ သို့ဖြစ်လေရာ အသင်တို့အနက်မှ မည်သူမဆို ထို(ရမသွာန်) လမြတ်နှင့် ကြုံကြိုက်ခဲ့ပါလျှင် ထိုသူသည် ယင်းလမြတ်၌ (တလပတ်လုံး) ဥပုသ်သီတင်းဆောက်တည်ရပေမည်။ သို့ရာတွင် အကြင်သူတစ်ဦးတစ်ယောက်သည် တစ်စုံတစ်ရာ ဝေဒနာစွဲကပ်၍ မကျန်းမမာဖြစ်ခဲ့သော်၊ သို့တည်းမဟုတ် ခရီးထွက်လျက်ရှိနေခဲ့သော် ထိုသူ့အပေါ်ဝယ် အခြားသောနေ့ရက်များတွင် (မိမိပျက်ကွက်ခဲ့သော ဥပုသ်ရက်များကို) တွက်စစ်၍ (ဖြည့်စွက်) ဆောက်တည်

ရန် တာဝန်ရှိပေသည်။ အလ္လာဟ်အရှင်မြတ်သည် အသင်တို့အဖို့ သက်သာချောင်ချိမှုကို အလိုရှိတော်မူပေသည်။ အသင်တို့အဘို့ ခက်ခဲမှုကို ကား(အလျှင်း)လိုလားတော်မူသည် မဟုတ်ချေ။ ထို့ပြင်တဝ (အလ္လာဟ်အရှင်မြတ်သည်) အသင်တို့ (ပျက်ကွက်ခဲ့သော နေ့ရက်) အရေအတွက်ကို ပြည့်စုံအောင်ပြုစေရန်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်အား ထိုအရှင်မြတ်ညွှန်ပြတော်မူသော နည်းလမ်းအတိုင်း ကြီးကဲမြင့်မြတ်တော်မူကြောင်း ရွတ်ဆိုကြရန်လည်းကောင်း(အလိုဆန္ဒရှိတော်မူသည်)၊ သို့မှသာလျှင် အသင်တို့သည် (ထိုအရှင်မြတ်၏) ကျေးဇူးကို သိသောသူများ ဖြစ်ကြရာသည်" (၂-၁၈၅)

မုချ အသင်တို့၏ဉာလမြတ်ရမသွာန်သည် အလ္လာဟ်အရှင်မြတ်ထံတော်ပါးတွင် အမွန်မြတ်ဆုံးလဖြစ်၏။ ထို့နောက် အရှင်မြတ်သည် ဉာလကို နေ့ရက်များ၊ လများအနက်မှ အထူးကဲဆုံးလအဖြစ် ပြုပေးထားတော်မူသည်။ ထို့လနှင့်ပင် နှစ်များကို အလ္လာဟ်အရှင်မြတ်က အလှဆင်တော်မူသည်။ ထိုလတွင် အလ္လာဟ်အရှင်မြတ်သည် များစွာသောသူတို့ကို အပါယ်ငရဲမီးမှ လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော်မူလေသည်။ ထို့ပြင် များစွာသောသူတို့ကို အပြစ်များ၏ ညစ်ထေးမှုများမှ သန့်စင်ပေးတော်မူသည်။ ထို့နောက်တောင်းခံသူတို့အတွက် ကောင်းကင်ဃံ၏တံခါးများကို ဖွင့်လှစ်ပေးထားပြီး ၎င်းတို့၏မျှော်လင့်ချက်များကို ဖြည့်ဆည်းပေးသနားတော်မူလေသည်။ ထို့နောက် ဉာလမြတ်၏ညဥ့်ကို သရာဝီနမားဇ်ဖြင့် တောက်ပစေတော်မူပြီး နေ့ကို ရိုဇာ ဥပုသ်

သီလစောင့်ထိန်းခြင်းဖြင့် ငြိမ်းချမ်းသာယာစေတော်မူသည်။ ထို့ပြင် ဤလမြတ်တွင် အလ္လာဟ်အရှင်မြတ်သည် ရှိုင်သွာန် မိစ္ဆာများကို ဖမ်းချုပ်ထားသည်။ မကောင်းသော ဂျင်န်များကိုလည်း အဖျက်အမှောက်ကိစ္စရပ်များပြုခြင်းမှ တားမြစ်ပိတ်ပင်ထားပေသည်။ ၎င်းနောက် အလ္လာဟ်အရှင်မြတ်သည် ဤလမြတ်တွင် မိမိထံ ရိုဇီရိက္ခာတောင်းခံသူကို ရိုဇီရိက္ခာ ချီးမြှင့်ပြီး မိမိကျေနပ်နှစ်သက်ရန် ပေးကမ်းစွန့်ကြဲသူကိုလည်း မြောက်မြားစွာသော အကျိုးစဝါဗ်များ ချီးမြှင့်တော်မူလေသည်။ မကြာမီမှာပင် ဤလမြတ်၏နေ့ရက်များမှာ ကုန်ဆုံးတော့မည် ဖြစ်သည်။ ထို့နောက် လူသားတိုင်းသည် မိမိတို့ပြုကျင့်ခဲ့သော အရာများ၏ အစားကို ရရှိကြမည် ဖြစ်သည်။ ဤလတွင် ကောင်းမှုအမြောက်အမြားကို ပြုခွင့်ရရှိခဲ့သူအတွက် မင်္ဂလာသတင်းကောင်းဖြစ်၏။ ထို့နောက် မိမိ၏ ဥပုသ်သီလစောင့်ထိန်းမှုကို လိမ်လည်းခြင်း၊ မုသားပြောခြင်းများနှင့် မရောယှက်ခဲ့သူ၊ ဂွန္နဟ်အကုသိုလ်များမကျူးလွန်ဘဲ ကောင်းမှုများပြုကျင့်ကာ မိမိ၏ ညဥ့်ကို ကုန်ဆုံးခဲ့သူသည် အလွန်ပင် ကောင်းလေစွ။ အမှန်တကယ် ထိုပုဂ္ဂိုလ်များသည် မိမိတို့၏ ရမသွာန် နေ့ရက်များကို ဤသို့ကုန်ဆုံးရခြင်းမှာ ၎င်းတို့၏ ရည်မှန်းချက်၊ မျှော်လင့်ချက်များကို အလ္လာဟ်အရှင်တစ်ပါးတည်းကသာ ဖြည့်ဆည်းပေးနိုင်ကြောင်းကို ယတိပြတ်သိရှိထားကြသည့် အတွက်ကြောင့်ဖြစ်သည်။ ထို့နောက် ၎င်းတို့၏ တောင်းတမှုများကို အလ္လာဟ်အရှင်မြတ်မှအပ မည်သူကမျှ မဖြည့်ဆည်းပေးနိုင်မှန်းကို ၎င်းတို့သိရှိကြသောအခါ အ

ရှင်မြတ်၏ကျေနပ်မှု ရရှိရေးအတွက် အမျိုးမျိုးသော အအ်မလ်အေဗာဒသ်များပြုကျင့်ကြပြီး အရှင်မြတ်၏ တားမြစ်ချက်များကို ရှောင်ကျဉ်ကြလေသည်။ ထို့ကြောင့် အရှင်မြတ်ထံတော်ပါးမှ ၎င်းတို့မျှော်လင့်တောင်းတသော အရာများ ရရှိသွားကြသည်။ မုချ အလ္လာဟ်အရှင်မြတ်၏ အသင်းဝင်များဆိုသည်မှာ ဤသူများဖြစ်ပါသည်။ ၎င်းတို့သာလျှင် ကေယာမသ်နေ့တွင် အောင်မြင်ကြမည့် သူများဖြစ်ကြသည်။ ၎င်း၏ဆန့်ကျင်ဘက်မှာ ဤလမြတ်တွင် သောင်ဗဟ်လက်ခံခြင်းမခံရသူ၊ အပြစ်များမှ လွတ်ငြိမ်းချမ်းသာခွင့် မရသူများမှာ ပျက်စီးရလေ၏။ ထိုသူတို့သည် အဟောသိက အလုပ်များတွင် လုံးပန်းနေပြီး အခြေအမြစ်မရှိသော မျှော်လင့်ချက်များ၏ လှည့်ဖြားမှုကိုခံနေရခြင်းဖြစ်၏။ ဤအဖြစ်အပျက်များကို ၎င်းသူသတိမပြုမိခင်မှာပင် မွန်မြတ်လှသော နေ့ရက်များ ကုန်ဆုံးသွားလေပြီ။ ထို့ပြင် ၎င်းသည် မိမိပြုခဲ့သော ပြစ်မှုများ၏အစား ကြီးလေးသောအပြစ်များတင်ကျန်ရစ်ခဲ့ ကြောင်းကိုလည်း မသိရှာပေ။

အိုး....သောင်ဗဟ်ပြုရန်ဆိုင်းငံ့နေသူ..........အသင်သည် ဤမွန်မြတ်သော လကြီး ကုန်ဆုံးသွားသည်ထိ ဆိုင်းငံ့နေအုံးမည်လော? မုချ ဤလ၏ နောက်တွင် မွန်မြတ်ထူးကဲသောလဟူ၍ ရှိမည် မဟုတ်တော့ပေ။ ထို့နောက် ဥပုသ်သီလစောင့်ထိန်းခြင်းလကိုလည်း ကျန်ရှိသော လများတွင်အသင် ရှာဖွေတွေ့ရှိမည် မဟုတ်ပေ။

ဤလမြတ်ကြီး ကုန်ဆုံးပြီးသည့်နောက်တွင် အဘယ်သူသည် အလ္လာဟ်အရှင်လက်ခံခဲ့သူ၊ အဘယ်သူသည် အလ္လာဟ်အရှင် လက်မခံသူဆို၍ ကျွန်တော်တို့သိခွင့်ရခဲ့လျှင်ကောင်းမည်....သို့မှသာ ကျွန်တော်တို့သည်လည်း အလ္လာဟ်အရှင်၏ကျေနပ်နှစ်သက်မှုကိုရရှိသူအား ဂုဏ်ပြုဩဘာပေးပြီး၊ အလ္လာဟ်အရှင်၏လက်ခံမှုမရရှိ ခဲ့သူကို ဖြေသိမ့်နိုင်မည်။ အိုး......မျှော်လင့်ချက်များနှင့် လှည်းဖြားခံနေရသူ၊ အနာဂတ်အတွက် စီမံကိန်းများဆွဲပြီး ဂုဏ်မောက်နေသူ........ ကေယာမသ်နေ့တွင် အသင်၏ ဝမ်းနည်းပူဆွေးသောကများ၊ အသင်၏ တမ်းတမှုများက အသင့်ကို အကျိုးတစ်စုံတစ်ရာမျှ ဖြစ်ထွန်းစေမည် မဟုတ်ပါဘူး။

အိုး......အီမာန်ရှင်အပေါင်းတို့...... မေ့လျော့မှုများက အသင်တို့ကို ပျက်စီးမှုများဆီသို့ မတွန်းပို့ပါစေနှင့်။ ထို့နောက် အလ္လာဟ်အရှင်မြတ်၏ အပြစ်ဒဏ်ခတ်မှုကို ဆိုင်းငံ့ထားခြင်းက အရှင်မြတ်သည် အသင်တို့ကို အပြစ်ဒဏ်မခတ်တော့ဘူးဟူ၍ ထင်ရောင်ထင်မှား မဖြစ်ပါစေနှင့်။ ကေန်မုချ ဤလမြတ်သည် အလ္လာဟ်အရှင့်ထံတော်ပါးတွင် သောင်ဗဟ်အမှား ဝန်ချတောင်းခံရမည့် လဖြစ်သကဲ့သို့ အပြစ်ဂွန္နဟ်များမှလည်း ရှောင်ကျဉ်ရမည့် လဖြစ်သည်။ ကေန်စင်စစ် လာမည့်နှစ်ရမသွာန်ကို ကြုံကြိုက်ခွင့်ရမည်ဟူ၍ မျှော်လင့်ချက်ထားသူ၏ မျှော်လင့်ချက်သည် အဘယ်မျှလောက် မဖြစ်နိုင်သော ကိစ္စရပ်ပါနည်း? မတည်မြဲသော ဤလောကကြီးတွင် အမြဲတစေရှင်သန်ခွင့်ရမည်ဟူ၍ အိပ်မက်မက်သူ၏ အိပ်မက်သည် အဘယ်မျှလောက် ရယ်စရာကောင်း

ပါသနည်း? ယခုနှစ်ရမသွာန်တွင် ရိုဇာဥပုသ်စောင့်ခွင့်ရပြီးနောက် လာမည့် နှစ်၏ရမသွာန်နှင့် ကြုံဆုံခွင့်မရတော့သည့် သူများ မည်မျှလောက်များပြားလိုက်လေသနည်း? ထို့နောက် လာမည့်နှစ်ရမသွာန်မရောက်ခင်မှာပင် သေခြင်းတရားနှင့် ရင်ဆိုင်ကြုံတွေလိုက်ရသူများ မည်မျှလောက်များပြားလိုက်လေသနည်း? မိမိကြုံကြိုက်ခွင့်ရသော ရမသွာန်တွင် ပေါ့လျော့ ခဲ့သူသည် နောက်နှစ်ရမသွာန်မရောက်မီ သေခြင်းတရားနှင့် ရင်ဆိုင်ရသည့်အခါ မိမိဖြုန်းတီးခဲ့သော ရမသွာန်၏နေ့ရက်များအတွက် အလွန်ပင် နောင်တရပေလိမ့်မည်။ ထို့နောက် မိမိ၏ သက်တမ်းကြာရှည်စွာ နေရမည်ဟု မျှော်လင့်ခဲ့သော မျှော်လင့်ချက်အပေါ် နောင်တများ ရရှိလိမ့်မည်။ ၎င်းသည် ကဗရ်စခန်းမှ မိမိ၏ ပြုကျင့်ခဲ့သော အအ်မလ်များနှင့် အထီးကျန်နေပြီး ဤလောကကို တဖန်ပြန်လာခွင့်ရရန် အလ္လာဟ်အရှင်ထံ တောင်းခံပေလိမ့်မည်။ သို့သော် ဤသို့ပြန်လာရန် မဖြစ်နိုင်မှန်းသိသောအခါ ၎င်းသည် အမြဲတစေ ဝမ်းနည်းပူဆွေးသောက ရောက်ရှိနေပေလိမ့်မည်။ ထို့ကြောင့် အသင်တို့သည်လည်း အလ္လာဟ်အရှင်မြတ် နှစ်သက်စေမည့် အအ်မလ်များကိုပြုကျင့်ပြီး အရာအားလုံးကို အကျွင်းမဲ့သိရှိတော်မူသော၊ အပြစ်များကို လွတ်ငြိမ်းချမ်းသာခွင့်ပေးတော်မူသော အလ္လာဟ်အရှင်မြတ်ထံ တော်သို့ ပြန်လှည့်ကြလေကုန်။

အသင်တို့သည် အီးဒ်နေ့တွင် မကောင်းမှုအကုသိုလ်များပြုခြင်း၊ ဗစ်ဒ်အသ်အဖွဲ့ဝင်များနှင့် ရောနှောခြင်း၊ မူးဝေစေသောအရာများ

သောက်စားခြင်း စသည်တို့မှ ရှောင်ကျဉ်ပါ။ အထူးသဖြင့် ယခုကဲ့သို့ မွန်မြတ်သော နေ့တွင် ရှိုင်သွာန်မိစ္ဆာ၏ အမိန့်ကို နာခံမှု မပြုရပါ။ ဤသို့ပြုပါက အသင်သည် အလ္လာဟ်အရှင်မြတ်၏ အမျက်ဒေါသကို လက်ယပ်ခေါ်သကဲ့သို့ဖြစ်သွားလိမ့်မည်။ ထို့ကြောင့် အီးဒ်လမြင်သောအခါ အသင်သည် မဂ်ရစ်နမားဇ်၊ အေရှာအ်နမားဇ်၊ ဖဂျ်ရ်နမားဇ်များတွင် ဤကဲ့သို့မွန်မြတ်သောနေ့ကို သက်ဗီရ် (အလ္လာဟ်အရှင် ကြီးကျယ်မြင့်မြတ်ကြောင်း) မြွက်ဟ၍သော်လည်းကောင်း၊ ဇိကရ် (အလ္လာဟ်အရှင်မြတ်အားသတိရတသ) ၍သော်လည်းကောင်းကြိုးဆိုရပါမည်။ ဤအတိုင်း အသင်သည် အီးဒ်နမားဇ်ဝတ်ပြုချိန်အထိ ကျင့်ကြံပါ။ အမှန်တကယ် အီးဒ်နမားဇ်သည် အလ္လာဟ်အရှင်ဘက်တော်မှလာသော ကြေငြာချက် တစ်ရပ်ဖြစ်သည်။ ထိုအရာနှင့်ပတ်သက်၍ အလ္လာဟ်အရှင်မြတ်က မိမိ၏ကျမ်းတော်မြတ်တွင် ဤသို့ပုံဖော်ပြသထားပါသည်။ "ထို့ပြင် တဝ(အလ္လာဟ်အရှင်မြတ်သည်) အသင်တို့ (ပျက်ကွက်ခဲ့သောနေ့ရက်) အရေအတွက်ကို ပြည့်စုံအောင်ပြုစေရန်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်အား ထိုအရှင်မြတ် ညွှန်ပြတော်မူသော နည်းလမ်းအတိုင်း ကြီးကဲမြင့်မြတ်တော်မူကြောင်း ရွတ်ဆိုကြရန်လည်းကောင်း (အလိုဆန္ဒ ရှိတော်မူသည်)၊ သို့မှသာလျှင် အသင်တို့သည် (ထိုအရှင်မြတ်၏) ကျေးဇူးကို သိသောသူများဖြစ်ကြရာသည်" (၂-၁၈၅) ထို့နောက် အသင်တို့၏ အသန့်ပြန့်ဆုံး ငွေကြေးဥစ္စာထဲမှ အသင်တို့၏အရွယ်ရောက်ပြီး သားသမီးများ ဘက်မှလည်းကောင်း၊ အရွယ်မရောက်သေးသော က

လေးသူငယ်များဘက်မှလည်းကောင်း ဆွဒကဟ်သွလ်ဖွသ်ရ် (ဖသ်ရာဟ်ကြေး) ထုတ်ပါလေ။ ထို့ပြင် ဤနေ့ရက်များမှာ အစ်သင်ဖာရ် (လွတ်ငြိမ်းချမ်းသာခွင့် တောင်းခံခြင်း) ကိုစွဲမြဲစွာ ပြုကြပါလေ။ ထို့နောက် အပြစ်ဂွန္နဟ်များမှ အထူးသဖြင့်ရှောင်ကျဉ်ပါလေ။ ၎င်းနောက် အီးဒ်နေ့ကို အလ္လာဟ်အရှင်ကြီးမြတ်ကြောင်းမြွက်ဟခြင်း၊ အရှင်မြတ်အား ချီးမွမ်းထောမနာပြုခြင်း၊ လာအိလာဟ အစ်လလ္လာဟ်ရွတ်ဆိုခြင်းများနှင့် ခြယ်သပါလေ။ ဤနေ့သည် သူမွန်သူမြတ်တို့ ပျော်ရွှင်ကြသော နေ့ဖြစ်သကဲ့သို့ အာလင်မ်ပညာရှင်အပေါင်းတို့ ပျော်ရွှင်ကြသောနေ့လည်းဖြစ်ပေသည်။

အီးဒ်နေ့တွင် ဖြစ်နိုင်ပါက မိမိအိမ်သူအိမ်သားများ၊ ဆွေမျိုးသားချင်းများ၊ ကလေးသူငယ်များကို ဆုလက်ဆောင်များ ဝေငှပေးပါ။ အလ္လာဟ်အရှင်၏ ကျေနပ်နှစ်သက်မှုကို မျှော်ကိုး၍ ဤသို့ပြုသူတိုင်းသည် မုချ အကျိုးစဝါးဗ်များ ရရှိမည်ဖြစ်သည်။ သို့သော် ဤလမြတ်တွင် အအ်မလ်များ ပယ်ဖျက်ခံရသူသည် အရှုံးကြီးရှုံးရလေခြင်း။ ထို့ပြင် အလ္လာဟ်အရှင်ဘက်တော်မှ လက်ခံခြင်းမခံရဘဲ ဤလကြီးကို ကုန်ဆုံးခဲ့သူသည် ပျက်စီးဆုံးရှုံးရလေပြီး။ အမှန်မှာ ၎င်း၏ အကုသိုလ်များက ကောင်းမှုပြု၍ အကျိုးထူးများခံစားခွင့်ရရှိခြင်းမှ ထိုသူ့အား လက်မဲ့ဖြစ်စေခဲ့သည်။ ထို့နောက် မတည်မြဲသော ဤလောကကို ၎င်းသူ ဦးစားပေးခဲ့ခြင်းက ထိုသူ့အား အလ္လာဟ်အရှင်မြတ်၏ ပေးကမ်းစွန့်ကြဲမှုမှ လက်မဲ့ ဖြစ်စေခဲ့၏။ ထို့အတွက်ကြောင့် အမြဲတစေ ဝမ်း

နည်းပူဆွေးသောက ရောက်ရလေတော့သည်။ ထို့သူ နောင်တမလွန်ကို ဥပေက္ခာပြု၍ ဤလောကီအတွက်ကျိုးပမ်းခဲ့မှုများက ယခုချိန်တွင် ၎င်းသူအတွက် ပျက်စီးခြင်းအပေါ်ဝယ် ပျက်စီးခြင်းသာ ရှိပေတော့မည်ဖြစ်သည်။

အိုး.....မုအ်မင်န်အပေါင်းတို့........ အသင်တို့ကို အမြဲတစေ စောင့်ကြပ်နေသော အရှင်ကို အကြောက်တရားထားရှိကြကုန်။ ထိုအရှင်သည် အသင်တို့၏သေးငယ်သော အအ်မလ်ဖြစ်စေ၊ ကြီးမားသော အအ်မလ်ဖြစ်စေ ထိုအအ်မလ်အားလုံး၏ အစားကိုပေးတော်မူမည့် အရှင်ဖြစ်သည်။ ထို့ကြောင့် လူတိုင်းလူတိုင်း မိမိ မည်သည့်အရာများ ပြုကျင့်နေသနည်း၊ မိမိနှုတ်မှ မည်သည့်အရာများကိုမြွက်ဟ နေသည်ဆိုသည်နှင့် ပတ်သက်၍ သတိချပ်ကြလေကုန်။ မှတ်သားထားလိုက်ပါ..... ယခုအသင်တို့ကို တရားဒေသနာ ဟောကြားနေသူသည် မိမိကိုယ်တိုင် ထိုတရားမှ သံဝေဂယူရန် အထိုက်သက်ဆုံးပင်ဖြစ်ပါသည်။ သို့မှသာ ကျွန်ုပ်ကိုယ်တိုင်က မပြည့်စုံသောသူတစ်ယောက်ဖြစ်ကြောင်း အလ္လာဟ်အရှင်မြတ် ထံတော်ပါးတွင် မြွက်ဟရာ ရောက်သကဲ့သို့ မနေ့ကနှင့်ယနေ့မှာ ကျွန်တော်သည် အရှင်မြတ်၏ အမိန့်များကို ပေါ့လျော့ခဲ့ကြောင်း ဝန်ခံရာလည်းရောက်ပါသည်။ မုချ ကျွန်တော်နှင့် မိတ်ဆွေတို့အားလုံးသည် ကြီးမြတ်လှပြီး အရာအားလုံးကို ဝိုင်းရံထားသော အလ္လာဟ်အရှင်မြတ်၏ ရဟ်မသ် (ကရုဏာတော်) ကို လိုလားတောင်းတဆုံးသောသူများ ဖြစ်ကြပါသည်။ အရှင်၏ အမိန့်များတွင် ပေါ့လျော့

ခဲ့သောကြောင့် ဝမ်းနည်းရလေခြင်း.......အရှင်၏အရေးယူမှု ကျွန်တော်တို့ပေါ် ကျရောက်ခြင်းမှ စိုးရွံ့ရလေခြင်း......ကေယာမသ်နေ့၌ ကမ္ဘာ့လူသားထု တစ်ရပ်လုံး၏ ရှေ့တွင်အရှင့် အမျက်ဒေါသ ကျွန်တော်တို့ပေါ် ကျရောက်မည်ကို တွေးပူရလေခြင်း.....

မိမိကိုယ်ကို မိမိကောင်းစွာသိရှိသူ၊ မနေ့ကနှင့် ယနေ့မှာ ပြုကျင့်ခဲ့ သော အအ်မလ်နှင့် ပတ်သက်ပြီး မိမိ၏ ရည်စူးချက်များကို ကောင်းစွာ သိနားလည်သူသည် ယခုအခါ မိမိ၏ ပြစ်မှုများအတွက် ချုံးပွဲချငိုရန် အထိုက်သက်ဆုံးဖြစ်သည်။ ထို့နောက် အလ္လာဟ်အရှင် တစ်ပါးတည်းအတွက် သီးသန့်အအ်မလ်များပြုကျင့်ရန် ထိုက်သက်ပေသည်။ ဘယ်သောအခါမျှ ငြိမ်းသွားမည် မဟုတ်သော၊ ဘယ်သောအခါမျှ အေးမြမှုမရှိသော၊ ဘယ်သောအခါမျှ ရပ်တန့်မှုမရှိသော ဂျဟန္နမ် အပါယ်ငရဲမီးမှ အလ္လာဟ်အရှင်မြတ်ကို ကျေနပ်စေမည့် အအ်မလ်များ ပြုကျင့်၍ ရှောင်ရှားရမည် ဖြစ်သည်။ လောက၏ စည်းစိမ်တွင်နစ်မွန်းနေပြီး အပါယ်ငရဲတွင် မွှမွှကြေအောင် ချေပစ်ခံရမည်ကို မေ့လျော့နေသူများ မည်မျှလောက်များပြားနေပါသနည်း? အမြဲရှင်နေတော်မူသောအရှင်၊ ထိန်းသိမ်းစောင့်ရှောက်တော်မူသောအရှင်ကို ပြောင်ပြောင်တင်းတင်း အမိန့်ဖီဆန်ပြီး အပါယ်ငရဲမီးတွင်လောင်ကျွမ်းခံရမည်ကို မေ့လျော့နေသူများ မည်မျှလောက်များပြားနေပါသနည်း? လောကတွင် မိမိဝမ်းတစ်ထွာကို ဟရမ်များနှင့် ဖြည့်ခဲ့သည့် အတွက်ကြောင့် အာခေ

ရသ်တွင် ဂျဟန္နမ်၏(ဇဟ္ကုမ်) ရှားစောင်းကြီးပင်နှင့် ထိုဝမ်းအားဖြည့်ခံရမည်ကို မေ့လျော့နေသူများ မည်မျှလောက်များပြားနေပါသနည်း?

အိုး..အလ္လာဟ်အရှင်....အရှင်၏ ဤကျေးကျွန်ကို အရှင်ကရုဏာ သက်တော်မူပါ။ အရှင် သနားပါ။ ဤကျေးကျွန်ပြုခဲ့သည့် များစွာသောအပြစ်များကို အရှင် ဖုံးကွယ်ပေးထားသကဲ့သို့ များစွာသော အပြစ်များလည်း အရှင် လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော်မူထားပါသည်။ အပြစ်များကျူးလွန်နေသည့်ကြားမှ အရှင်သည် ဤကျေးကျွန်အား မြောက်မြားစွာသော နေ့အ်မသ်များ ချီးမြှင့်တော်မူထားပါသည်။ ထို့နောက် ကျူးလွန်ခဲ့သော အပြစ်များအတွက် ချက်ချင်းအရေးယူမှု မပြုဘဲ အရေးယူမှုကို ဆိုင်းငံ့ထားပါသည်။ အရှင်သည်သာချို့တဲ့ သောလျှင် ဤကျေးကျွန်ကို လွတ်ငြိမ်းချမ်းသာခွင့်ပေးပြီး ဂျန္နသ်သုခဘုံကို ချီးမြှင့်ရန် အထိုက်သက်ဆုံးဖြစ်ပါသည်။ ကျွန်တော်တို့မှာ အရှင့် အပြင် ခိုလှုံရာ ဌာနီဟူ၍ မရှိပါ။

အိုး....အလ္လာဟ်အရှင်မြတ်....အရှင်၏ အချစ်ဆုံးနဗီတမန်တော်၊ အမွန်မြတ်ဆုံးသော မျိုးနွယ်မှ ဆင်းသက်လာသော ကိုယ်တော်မြတ်သခင်၊ ကမ္ဘာ့လူသားထုတစ်ရပ်လုံး၌ အကောင်းမွန်ဆုံးသော ကိုယ်တော်မြတ် မုဟမ္မဒ်(ﷺ)၏ သဟဲဖြင့် ကျွန်တော်မျိုးတို့၏ ဒိုအာများကို လက်ခံပေးပါဟု အရှင်မြတ်ထံတော်ပါးတွင် တောင်းခံပါသည်။ ထို့နောက် ကျွန်တော်မျိုးတို့၏ ရည်မှန်းချက်များကို အရှင့်ကရုဏာသက်သက်ဖြင့် ပြည့်ဝစေတော်မူပါ။ ထို့နောက် ကျွန်တော်မျိုးတို့အတွက်

ဤလမြတ်ကိုလည်း လွတ်ငြိမ်းချမ်းသာခွင့်များ၊ အပြစ်များမှပလပ်ပေးမှုများနှင့် အဆုံးသတ်ပေးတော်မူပါ။ ထို့ပြင် ကျွန်တော်မျိုးတို့ကို အရှင်မြတ်၏အမိန့်အား တစ်သဝေမတိမ်း နာခံသူများ အဖြစ်ပြုပေးသနားတော်မူပြီး အရှင်၏ပေးကမ်းစွန့်ကြဲမှုများနှင့် ကျွန်တော်မျိုးတို့ကို လွှမ်းခြုံပေးသနားတော်မူပါ။ အရှင်မြတ်သည်သာ အကောင်းမွန်ဆုံးခိုလှုံရာ အကောင်းဆုံးအကူအညီတောင်းခံရာအရှင် ဖြစ်ပါသည်။

အိုး...မုအ်မင်န်အပေါင်းတို့.....ဤအရာသည် ရမသွာန်လမြတ်တွင် ကျွန်တော်တို့၏ နောက်ဆုံးတွေ့ဆုံခြင်းပင် ဖြစ်သည်။ ထို့ကြောင့် ယခုအချိန်မှစ၍ ကျွန်တော်တို့၏ ရည်မှန်းချက်များကို အလ္လာဟ်အရှင်မြတ် ဖြည့်ဆည်းပေးရန်၊ ကျွန်တော်တို့၏ ရန်သူများကို အရှင်မြတ်ဘက်တော်မှ ချေမှုန်းပေးရန်၊ ကျွန်တော်တို့၏ ရိုဇီရိက္ခာများကို အရှင်မြတ်သခင် ကျယ်ဝန်းအောင်ပြုပေးရန်၊ ကျွန်တော်တို့ကို ဂျဟန္နမ်အပါယ်ငရဲမီးမှ လွှမ်းငြိမ်းချမ်းသာခွင့်ပေးရန်အတွက် အလ္လာဟ်အရှင်မြတ်ထံတော်ပါးတွင် ကျွန်တော်တို့တောင်းခံရမည် ဖြစ်သည်။ အဘယ့်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်သည်သာ မိမိ၏ကျေးကျွန်များပြုသော သောင်ဗဟ်ကိုလက်ခံတော်မူပြီး ၎င်းတို့၏ အပြစ်များကို လွတ်ငြိမ်းချမ်းသာခွင့် ပေးတော်မူသော အရှင်ဖြစ်တော်မူပေသည်။ ထို့ပြင် အရှင်မြတ်သည် ကျွန်တော်တို့အားလုံး ပြုကျင့်နေသော အရာများကို အကြွင်းမဲ့ သိရှိတော်မူသည်။ ထို့နောက် အလ္လာဟ်အရှင်မြတ်သည် မိမိထံတော်ပါးတွင် တောင်းဆုပြုရန် ဤသို့မိန့်မြွက်တော်မူထားလေ

သည်။ "ထို့ပြင်တဝ (အို-နဗီတမန်တော်မုဟမ္မဒ်(ﷺ) ငါအရှင်မြတ်၏ ကျေးကျွန်များသည် ငါအရှင်မြတ်နှင့် ပတ်သက်၍ အသင့်ထံ မေးမြန်းကြသောအခါဝယ် (အသင်သည် ဤကဲ့သို့ ဖြေကြားပါလေ) မုချကေန် ငါအရှင်မြတ်သည် (ယင်းသူတို့နှင့်) နီးကပ်စွာပင် ရှိတော်မူ၏။ ငါအရှင်သည် ဆုတောင်း ပတ္ထနာ ပြုသူ၏ ဆုတောင်း ပတ္ထနာပြုချက်ကို သဘောတူ လက်ခံတော်မူ၏။ သို့ဖြစ်လေရာ ယင်းသူတို့သည် ငါအရှင်မြတ်၏ အမိန့်တော်များကို လက်ခံနာယူ၍ ငါအရှင်မြတ်ကိုသာ ယုံကြည်မြတ်နိုးကြရမည်။ သို့မှသာလျှင် ယင်းသူတို့သည် ဖြောင့်မတ် မှန်ကန်သော တရားလမ်းကို ရရှိကြသူများဖြစ်တန်ရာ၏" (၂-၁၈၆)

အလ္လာဟ်အရှင်မြတ် ကျွန်တော်မျိုးနှင့် အသင်တို့အားလုံး၏ တောင်းဆုများ ကိုလက်ခံတော်မူပြီး ကျွန်တော်မျိုးတို့အားလုံး၏ သောင်ဗဟ်အမှားဝန်ချတောင်းပန်မှုတို့ကို လက်ခံကာ ကျွန်တော်တို့၏ အပြစ်များအားလုံးကို လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော်မူပါစေ။ ထို့ပြင် ကျန်ရှိသော ဤလမြတ်၏ နေ့ရက်လေးများတွင် အရှင့်ဘက်တော်မှ ကျွန်တော်တို့အပေါ် ကောင်းချီးမင်္ဂလာအပေါင်း ခညောင်းပါစေ။ ထို့နောက် အိုး....အလ္လာဟ်အရှင်မြတ် ကျွန်တော်မျိုးတို့နှင့် မွတ်စ်လင်မ်ထုတစ်ရပ်လုံး၏ အပြစ်များအား လွတ်ငြိမ်းချမ်းသာခွင့်ရရန် အရှင်မြတ်ထံ ဆုပန်ပါသည်။ **ချီးမွမ်းထောမနာခြင်း ဟူဟူသ၍သည် စကြာဝဠာ အပေါင်းတို့ကို (မဖြစ်ပေါ်မီကစ၍ ပြည့်စုံပြီးစီးသည့်တိုင်**

အောင် အဆင့်ဆင့်) ပြုစု ပျိုးထောင်တော်မူသော အလ္လာဟ်အရှင်မြတ် အဘို့သာ ဖြစ်တော်မူပါသည်။

## ရှောင်ဝလ်လ

## ရှောင်ဝလ်လ ခွသ်ဗဟ်

ချီးမွမ်းထောမနာ ပြုမှုအပေါင်းသည် ခက်ထန်သော ဘုရင်များကို သေးသိမ်စွာ ဦးညွှတ်စေသည့် တစ်ပါးတည်းသော အလ္လာဟ်အရှင်မြတ်အဖို့သာဖြစ်ပါသည်။ ထိုအရှင်မြတ်သည် လောကီလောကုတ္တရာနှစ်ဌာနလုံး၏ အဖြစ်အပျက်များ အားလုံးကို အကြွင်းမဲ့ သိရှိတော်မူသော အရှင်မြတ်တော်မူပါသည်။ ထို့နောက် အလ္လာဟ်အရှင်မြတ်သည် မိမိဖန်ဆင်းတော်မူထားသော အရာအားလုံးအတွက် သတ်မှတ်ချက်များကိုလည်း သတ်မှတ်ထားတော်မူပြီး ၎င်းအဖန်ဆင်းခံ အားလုံးကို ထိန်းသိမ်းစောင့်ရှောက်တော်မူထားပေသည်။ ထို့ကြောင့် ကျွန်တော်မျိုးသည် အလ္လာဟ်အရှင်မြတ်၏ ချီးမြှင့်မြောက်စားမှုများအပေါ် အရှင့်အား ကျေးဇူးတင်ရှိကြောင်းမွက်ဟာသကဲ့သို့ အရှင်မြတ်၏ဆုံးဖြတ်ချက်များကိုလည်း အပြည့်အဝ နှလုံးသည်းပွတ်အတွင်းမှ လှိုက်လှိုက်လှဲလှဲ လက်ခံပါသည်။

အလ္လာဟ်အရှင်မြတ်မှ အပအခြားခဝပ်ကိုးကွယ်ရာ အရှင်မရှိကြောင်းနှင့် အရှင်မြတ်နှင့်ယှဉ်တွဲ ကိုးကွယ်ရာအရှင်မရှိကြောင်းကို ကျွန်တော်မျိုး သက်သေခံပါသည်။ ထို့နောက် ကိုယ်တော်မြတ်(ﷺ) သည် အလ္လာဟ်အရှင်မြတ်၏ ရစူလ်စေတမန်ဖြစ်ကြောင်းနှင့် အရှင်မြတ်သခင်၏ အမိန့်ပညတ်ချက်များကို ကမ္ဘာ့လူသားထုတစ်ရပ်လုံးဆီ ပို့ဆောင်ရန် စေလွှတ်ခြင်းခံရသော နဗီတမန်တော်ဖြစ်ကြောင်းကို ကျွန်

တော်မျိုးသက်သေခံပါသည်။ ထို့အတွက်ကြောင့် အလ္လာဟ်အရှင်မြတ်သည် ကိုယ်တော်မြတ်(ﷺ)အပေါ်ဝယ် မိမိ၏ အမိန့်ပညတ်ချက်များကို ကုရ်အာန်ကျမ်းတော်မြတ် အဖြစ် ချပေးသနားတော် မူလေသည်။ သို့ရှိရာ ကိုယ်တော်သခင်(ﷺ)ကလည်း ကမ္ဘာ့လူသားထု တစ်ရပ်လုံးကို အလ္လာဟ်အရှင်မြတ်ဘက်တော်သို့ ဖုန်းကွယ်စွာဖြင့်တစ်မျိုး ထင်ရှားပေါ်လွင်စွာဖြင့်တဖုံ ဖိတ်ခေါ်တော်မူလေသည်။ ထို့ပြင် မိမိ၏ ကရုဏာမိုးများကိုလည်း စကြာဝဠာအလုံးစုံအပေါ်၌ ရွာသွန်းဖြိုးစေ တော်မူလေသည်။ နောက်ဆုံးတွင် အီမာန်ယုံကြည်သူများသည် နည်း ရာမှများလာတော့သည်။ ထို့နောက် ညဥ့်ကဲ့သို့ လမ်းမှားမှု၏ အမှောင်ထုကြီးကလည်း မိုးသောက်လာပါတော့သည်။ ထို့နောက် လူတို့သည် အလ္လာဟ်အရှင်မြတ်၏ သာသနာတော်ထဲသို့ အုပ်စုလိုက် အုပ်စုလိုက် ရိုကျိုးစွာဝင်လာပါတော့သည်။ နောက်ဆုံးအနေနှင့် ကိုယ်တော်မြတ်(ﷺ)နှင့် ကိုယ်တော်သခင်၏ အိမ်သူအိမ်သားများအပေါ်၌ အလ္လာဟ်အရှင်ဘက်တော်မှ ကောင်းချီးမင်္ဂလာအပေါင်း ကျရောက်ပါစေ။

အိုး...အီမာန်ရှင်အပေါင်းတို့......အသင်တို့သည် အလ္လာဟ်အရှင်မြတ်ကို သက္ကဝါ(အကြောက်တရား)ထားရှိရန် မှာတမ်းပါသည်။ မုချအလ္လာဟ်အရှင်မြတ်ကို အကြောက်တရားထားရှိခြင်းသည် ဘယ်သောအခါမှ ပြတ်တောက်ခြင်းမရှိသော ကြိုးကွင်းကို မြဲမြံစွာ ဆုပ်ကိုင်ခြင်းဖြစ်သလို ပြိုပျက်ခြင်းမရှိသော အထွတ်အထိပ်တစ်ခုလည်းဖြစ်သည်။ ထို့ပြင် ၎င်းသက္ကဝါတရားသည် သူမှန်သူမြတ်တို့ ဖက်တွယ်ရာဖြစ်ပြီး

အသိဉာဏ်အပေါင်းကို အလင်းဆောင်ပေးသော အရာလည်းဖြစ်သည်။ ဤသက္ကဝါတရားကို လက်ကိုင်ထားသူသည် နိဂုံးဆိုးရွားမှုမှ ကင်းလွတ်ခွင့်ရမည်ဖြစ်ပြီး ဤသက္ကဝါတရားကို ဆောင်ကြဉ်းသူသည် ဘေးအန္တရာယ်အပေါင်းမှ လွတ်ငြိမ်းချမ်းသာခွင့်ရမည်ဖြစ်သည်။ ရင်းနှီးကျွမ်းဝင်မှုမရှိဘဲ အထီးကျန်ဆန်လွန်းလှသော ဌာနီအတွက်၊ ပြန်လှည့်ခွင့်မရှိသော စခန်းအတွက်၊ မျှော်လင့်ချက်များ တဖန်ပြန်လည် ရှင်သန်ခွင့်မရှိသည့် ဌာနီအတွက်၊ လောက၏ ဂုဏ်သိက္ခာရှင်တို့ သေးသိမ်ရမည့် ဌာနီအတွက်၊ ဝမ်းနည်းပူဆွေးသောကများနှင့် ပြည့်နှက်နေသော ဌာနီအတွက် ပြင်ဆင်ရန် အသင်တို့ကို ကျွန်တော် သတိပေး နှိုးဆော်ပါသည်။

အိုး...... မုအ်မင်န်အပေါင်းတို့..........အပါယ်ငရဲကိုလားရစေမည့် အလုပ်များကို ချက်ချင်းရပ်တန့်ပြီး ထိုအပါယ်ငရဲနှင့် ဝေးစေမည့် အအ်မလ်များကို ကျင့်ကြံပါလေ။ မုချအပါယ်ငရဲ့ဆိုသည်မှာ ဒုက္ခအပေါင်းစုစည်းရာဖြစ်သည်။ ထို့ပြင် ပြစ်မှုကြီးသမားများကို ပြစ်ဒဏ်ခတ်သောနေရာဖြစ်သည်။ ပြစ်ဒဏ်ခတ်မှု၌ လျော့ပေါ့မှု မရှိသော ဤဌာနီသည် မည်မျှလောက် ကြောက်မတ်ဖွယ်ကောင်းလိုက်ပါသနည်း? သေခြင်းတရားမရှိဘဲ အပြစ်ပေးမှု သက်သက်သာရှိသော ဤဌာနီသည် အဘယ်မျှလောက် ဆိုးရွားလိုက်မည်နည်း? ထိုအပါယ်ငရဲတွင် လားရသူတို့သည် ငါတို့ပျက်စီးရလေခြင်းဆို၍ ရှိုက်ကြီးတငင်ငိုကြွေးမှုမှအပ အခြားဘာမျှ တက်စွမ်းနိုင်မည်မဟုတ်ပေ။ ထို့ပြင်၎င်းတို့သည် သေးသိမ်ခြင်း၏ အဝတ်တန်ဆာများကို ဝတ်ဆင်ရမည် ဖြစ်သည်။ ၎င်းတို့၏ ခိုနား

ရာဖြစ်သော နက်ရှိုင်းသည့်ငရဲတွင်းကြီးသည် မည်မျှလောက် ဆိုးရွား လိုက်လေသနည်း? ထို့နောက် ပွက်ပွက်ဆူလျက်ရှိနေသော ရေနွေးပူ သည် ဟာရာမ်များနှင့် ကြီးထွားလာသော အူများကို အပိုင်းပိုင်းအပြတ် ပြတ်ပြုလုပ်ပစ်မည် ဖြစ်သည်။ ၎င်းသူတို့အပေါ်ဝယ် ပြစ်ဒဏ်ခတ်မှု များကလည်း ကျရောက်ပြီဖြစ်လေသည်။ ထို့ပြင် ၎င်းတို့၏ အရေပြား များသည် လောင်ကျွမ်းသွားတိုင်း ထိုအရေပြားများ၏ အစားအခြား အရေပြားများနှင့် လဲလှယ်ခံရမည် ဖြစ်သည်။ ထို့နောက် ၎င်းတို့၏ မျက်နှာများသည်လည်း ပြင်းပြင်းထန်ထန် စစ်ကြောမေးမြန်းခံထားရ သည့် အတွက်ကြောင့် မည်းနက်စွာ ရှိနေကြလိမ့်မည်။ ထိုမျှမက ဂျဟန္နမ်စောင့်များက ထို့သူတို့ကို ဤသို့ ပြောဆိုကြပေလိမ့်မည်။ "အ သင်တို့သည် နွေးထွေးစွာ နှုက်ဆက်ခြင်းနှင့် ကင်းဝေးစေသား။ ထို့ပြင် အသင်တို့သည် အဆိုးရွားဆုံးသော ဌာနီကို မိမိတို့အတွက် အမြဲနေထိုင် ရာ စခန်းအဖြစ် ပြုလုပ်လိုက်ကြလေကုန်" အမှန်မှာ ၎င်းတို့သည် ဤ လောက၌ အခြေအမြစ်မရှိသော မျှော်လင့်ချက်များပေး၍ လမ်းမှားစေ သော အတုအယောင်များကို ကိုးကွယ်ရာထင်ပြီး ခဝပ်ဆည်းကပ်ခဲ့ကြ ခြင်းဖြစ်သည်။ ထို့ကြောင့် တမလွန်၌ ထိုသူတို့အပေါ်ဝယ် ပျက်စီးခြင်း သာရှိပေတော့သည်။ "အိုး-ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူ တော်မူသောအရှင်မြတ်၊ အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား ဤ ဂျဟန္နမ်ငရဲဘုံမှ ထုတ်ယူတော်မူပါ၊ တစ်ဖန် အကယ်၍ ကျွန်တော်မျိုး တို့သည် (ဤသို့သောအပြုအမူမျိုးကို) ထပ်မံ၍ပြုလုပ်ခဲ့ကြပါလျှင်၊ ထို

အခါ ကျွန်တော်မျိုးတို့သည် ပြစ်မှုကျူးလွန်သူများ အမှန်ပင် ဖြစ်ကြပါမည်" (၂၃-၁၀၇) "၎င်းတို့သည် အကယ်၍သာ (လူ့ပြည်လောကသို့) ပြန်လွှတ်ခြင်းခံကြရပါလျှင်၊ မုချဧကန် ထိုသူတို့သည် မိမိတို့တားမြစ်ခြင်း ခံကြရသော အမှုကိစ္စများကို ထပ်မံ၍ပင် ပြုကြလတ္တံ့။ ထိုသူတို့သည် ဧကန်စင်စစ် မုသားပြောဆိုသူများသာ ဖြစ်ကြကုန်သတည်း" (၆-၂၈) ထိုအခါ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့ကို ဤသို့အဖြေပေးတော်မူလေသည်။ "အသင်တို့သည် ယင်းဂျဟန္နမ်ငရဲဘုံ၌ ဂုဏ်ရည်သေးသိမ်စွာ မောင်းထုတ်ခြင်းခံရသူများအဖြစ် ရှိနေကြလေကုန်။ ၎င်းပြင် အသင်တို့သည် ငါအရှင်မြတ်နှင့် အလျှင်းစကားမပြောဆိုကြကုန်လင့်"(၂၃-၁၀၈) သို့ပါသောကြောင့် ၎င်းအပြစ်ကျူးလွန်သူတို့၏ မျှော်လင့်ချက်များသည်လည်း ကင်းမဲ့ကုန်လေပြီ။ ထို့ပြင် ၎င်းတို့အပေါ် အရှင်မြတ်ဘက်တော်မှ ပြစ်ဒဏ်ခတ်မှုများ ပြင်းထန်စွာ ကျရောက်လာပြီဖြစ်သည်။ ထို့ကြောင့် ၎င်းအပြစ်ပေးခံရသူတို့၏ အော်ဟစ်ငိုကြွေးသံများသည် ဂျဟန္နမ်အတွင်းဆူညံနေပါတော့သည်။ သို့ဖြစ်ပေရာ အကယ်၍ ၎င်းတို့က ဤသည်အတိုင်း သည်းခံနေကြလျှင်လည်း ငရဲမီးသည် ထို့သူတို့၏ နေထိုင်ရာဌာနပင် ဖြစ်သည်။ ထိုနည်းတူစွာ အကယ်၍ ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်၏ နှစ်သက်မှုကို ရလိုရငြား တောင်းခံမည်ဆိုလျှင်လည်း အရှင်မြတ်၏နှစ်သက်မှုကို ရရှိမည် မဟုတ်ပေ။ အိုး. အလ္လာဟ်အရှင်မြတ် ကျွန်တော်မျိုးတို့အားလုံးကို အရှင်၏အမျက်တော်

ရှုခြင်းမှ ဝေကွာအောင်ပြုလုပ်ပေးပြီး အရှင်ကျေနပ်နှစ်သက်မည့် အရာများကို ပြုကျင့်နိုင်စွမ်းပေးသနားတော်မူပါစေ။

ဖတ်ရွတ်သရဇ္ဈာယ်သည့်အခါ ဂရုပြု၍ ဆိတ်ငြိမ်စွာကြားနာရန် အထိုက်သက်ဆုံးသောအရာမှာ အသင်တို့ကို အကောင်းမွန်ဆုံးအဖန်ဆင်းခံအဖြစ်ဖန်ဆင်းတော်မူထားသောအလ္လာဟ်အရှင်မြတ်၏ မုကၡပါဠိတော်ပင် ဖြစ်သည်။ "သို့ရာတွင် 'ကာဖိရ်'သွေဖည်ငြင်းပယ်သူတို့အဖို့ 'ဂျဟန္နမ်' ငရဲဘုံ၏ မီးသည်ရှိပေမည်။ ၎င်းတို့အပေါ်၌ ၎င်းတို့ သေဆုံးနိုင်ကြအံ့သောငှာ အမိန့်တော် ပြဋ္ဌာန်းခြင်းခံရမည်လည်း မဟုတ်ပေ၊ ယင်းငရဲဘုံ၏ ပြစ်ဒဏ်သည် ၎င်းတို့မှ ပေါ့လျော့စေခြင်း ခံရမည်လည်း မဟုတ်ပေ။ ငါအရှင်မြတ်သည်ဤနည်း အတိုင်းပင် သွေဖည်သူတိုင်းကို အစားပေးတော်မူသည်" (၃၅-၃၆)

## ဇွလ်ကအ်ဒဟ်လ

## ပထမခွသ်ဗဟ်

ချီးမွမ်းထောမနာ ပြုခြင်းအပေါင်းသည် အလ္လာဟ်အရှင်မြတ် တစ်ပါးတည်းအတွက်သာ ဖြစ်တော်မူပါသည်။ မြင်တွေ့နေရသော အရာတိုင်းသည် အရှင်မြတ်၏ တစ်ပါးတည်း တည်ရှိကြောင်းကို မြွက်ဟနေပါသည်။ ထို့နောက် အရှင်၏ သက်ဒီရ် သက်မှတ်ချက်သည်လည်း အရာအားလုံးထက် စောလျင်စွာသတ်မှတ်ပြီးဖြစ်သည်။ ထို့နောက် စကြာဝဠာအပေါင်းတို့ကို မဖြစ်ပေါ်မီကစ၍ ပြည့်စုံပြီးစီးသည့်တိုင်အောင် အဆင့်ဆင့် ပြုစုပျိုးထောင်တော်မူသော အလ္လာဟ်အရှင်မြတ်၏ ဖန်ဆင်းမှုသည်လည်း အရှင်မြတ် တစ်ပါးတည်း တည်ရှိကြောင်းကို ဖော်ညွှန်းပြသနေပါသည်။ ထို့ပြင် အရှင်မြတ်ကို ပုံဖော်ခိုင်းနှိုင်း၍လည်းမရပါ။ အရှင်မြတ်သည် လူသားတို့ စာလုံး၊ အက္ခရာများကို ဖန်တီးမှုမပြုမီအလျှင်အတည်းက တည်ရှိတော်မူသော အရှင်ဖြစ်ပေသည်။ ထိုအရှင်မြတ်သည် အလွန်ပင် ကျေးဇူးကြီးမားတော်မူသော၊ သနားကြင်နာတော်မူသော၊ တရားမျှတစွာ ဆုံးဖြတ်ချက်ချတော်မူသော အရှင်ဖြစ်တော်မူပါသည်။ ထိုအရှင်မြတ်ကိုသာလျှင် ကျွန်တော်မျိုး ချီးမွမ်းထောမနာပြုပါ၏။ ထို့နောက် အရှင်မြတ်ချီးမြှင့်တော်မူသော နေ့အ်မသ် စည်းစိမ်များပေါ် အရှင်မြတ်အား ကျေးဇူးတင်ကြောင်းမြွက်ဟပါသည်။

အလ္လာဟ်အရှင်မြတ်မှ တစ်ပါးအခြားခဝပ်ကိုးကွယ်ရာ အရှင်မရှိ၊ တုဖက်နှိုင်းယှဉ်ရာ အရှင်မရှိကြောင်းကို ကျွန်တော်မျိုးသက်သေခံပါ၏။ ထို့နောက် မုဟမ္မဒ်(ﷺ)သည် အလ္လာဟ်အရှင်မြတ်၏ ဗန္ဒဟ်အစေတော်နှင့် ရစူတမန်တော်ဖြစ်ကြောင်းကို ကျွန်တော်မျိုး သက်သေခံပါ၏။ ထို့နောက် အမှောင်ထုလှိုင်းတံပိုးများ ထူထပ်နေချိန်တွင် အလ္လာဟ်အရှင်မြတ်သည် ကိုယ်တော်မြတ်(ﷺ)ကို စေလွှတ်တော်မူခဲ့သည်။ သို့ရှိရာ ကိုယ်တော်မြတ်(ﷺ)သည် လုပ်ရပ်ဖြင့်သော်လည်းကောင်း၊ နှုတ်ဖြင့်သော်လည်းကောင်း အလ္လာဟ်အရှင် အပ်နှင်းထားသော တာဝန်များကို ကျေပွန်ရန် အပတ်တကုတ်ကြိုးစားခဲ့သည်။ လမ်းမှန်ကိုထွန်းလင်းတောက်ပစေပြီး လမ်းမှားနှင့် လမ်းမှားသူတို့ကို မှေးမှိန်ပျောက်ကွယ်စေခဲ့သည်။ ကိုယ်တော်မြတ်(ﷺ)နှင့် ကိုယ်တော်သခင်၏ အိမ်သူအိမ်သားများအပေါ်ဝယ် အလ္လာဟ်အရှင့်ဘက်တော်မှ ကောင်းချီးမင်္ဂလာအပေါင်း ကျရောက်ပါစေ။

အိုး......မုအ်မင်န်အပေါင်းတို့.......ခေတ်ကာလကြီးသည် အလွန်ဆန်းကြယ်ပါသည်။ အဘယ်ကြောင့်ဆိုသော် အချိန်တိုလေးအတွင်းမှာပင် အသင်မယုံကြည်နိုင်လောက်သော အဖြစ်အပျက်များကို မျက်ဝါးထင်ထင် တွေ့မြင်နိုင်သကဲ့သို့ မယုံနိုင်စရာကောင်းသော အပြောင်းအလဲများကိုလည်း အသင်မြင်တွေ့နိုင်သည့် အတွက်ကြောင့်ဖြစ်သည်။ ထို့နောက် ၎င်း၏ ကတိများသည်လည်း လိမ်လည်မှု သက်သက်ဖြစ်ပြီး သူ၏ လက်ဆောင်များမှာလည်း တံလှပ်ကဲ့သို့ဖြစ်သည်။ သူပေးသော

ဒုက္ခများမှာ မရေမတွက်နိုင်သကဲ့သို့ ထိုဒုက္ခများ၏အစား သူပြန်ပေးသော ဆုလာဘ်မှာ ခဏတာ အရိပ်အာဝါသပေးသော တိမ်တိုက်လိုပင်ဖြစ်သည်။ ၎င်းက အသစ်မှန်သမျှကို ဟောင်းနွမ်းအောင်ပြုလုပ်ပစ်၏။ ထို့နောက် ဆိုးသွမ်းသူတိုင်းကို ၎င်း၏ဆိုးသွမ်းမှုထဲ၌ပင် မေ့မျောစေသည်။ ထို့နောက် သေခြင်းတရား၏ ယန္တရားကြီးကို ရှေ့ယခင်လူများမှစ၍ နောက်ပိုင်းခေတ်လူများထိ အဆင့်ဆင့် လည်ပတ်စေသည်။ နောက်ဆုံးတွင် နှောင်းပိုင်းသူများကို ယခင်သူများနှင့် ဆုံစည်းစေသည်။ ဤသည် အလ္လာဟ်အရှင့်ဘက်တော်မှ သတ်မှတ်ချက်ဖြစ်သကဲ့သို့ အရှင်မြတ်မှတပါး အခြားအရာခပ်သိမ်းသည် ပျက်စီးရမည် ဖြစ်ကြောင်းကို ဖော်ညွှန်းနေခြင်းလည်း ဖြစ်ပေသည်။

အိုး.......လှည့်ဖြားခံနေရသူအပေါင်းတို့.....ထိုခေါ်ဆိုမှုတွင် တရားဟောကြားသူ၊ တရားနာသူနှစ်ဦးစလုံး အကျုံးဝင်ပါသည်။ အသင်တို့၏ မေးမှိန်ပျောက်ကွယ်တော့မည့် သက်တမ်းတွင် အသင်တို့ ဘယ်အရာများကို စုဆောင်းပြီးပြီလဲ? (သို့) မကြာမီရောက်ရှိလာမည့် အသင်တို့၏ သေခြင်းတရားအတွက် ဘာများ ပြင်ဆင်ပြီးပြီလဲ? အရာအားလုံး၏ ဓမ္မစစ်ကို အသင် မျက်ဝါးထင်ထင်မြင်တွေ့ရသည့်အခါ၊ အသင်၏ သေကျေပျက်စီးရမည့် အချိန်ရောက်ရှိလာသောအခါ၊ အသင့်၏ အသက်ဝိညာဉ်ကို နုတ်ယူခံရသောအခါ အသင်သည် ဆွေမျိုးရင်းချာများ၏ ကြား၌ပင် အထီးကျန်ဆန် နေပေလိမ့်မည်။ ထို့နောက် အသင်၏ ကိုယ်ခန္ဓာသည် ပိုးကောင်မွှားကောင်များ၏ အစားအစာသာဖြစ်ပေတော့

မည်။ ထို့ပြင် အသင်သည် ထိုနေထိုင်ရာ စခန်းကြီးတွင် ကွယ်ပျောက်နေသူပမာ တည်ရှိနေသူ၊ ပြန်လမ်းမရှိသော ခရီးသည်၊ အထီးကျန်ဆန်မှုကြီး၏သားကောင်၊ အသေးအဖွဲ့ရိက္ခာလေးကိုပင် လိုလားတောင်းတနေသူ၊ အိမ်နီးချင်းမရှိဘဲ တစ်ဦးတည်းနေထိုင်ရသူ၊ ဧည့်ဝတ်ပြုမည့်သူမရှိသော ဧည့်သည်ကဲ့သို့ ဖြစ်နေလိမ့်မည်။ အသင်သည် ဤကဲ့သို့ စခန်းကြီးတွင် နေထိုင်ရမည်ဖြစ်သည်။ ၎င်းစခန်းတွင် မြောက်မြားစွာသောသူများသည် မိမိဝန်ထုတ်ဝန်ပိုးများကို ထမ်းရွက်ပြီး သွားနေကြပေလိမ့်မည်။ သို့သော် ၎င်းတို့အတွက် အစီးအနင်းဟူ၍ ရှိမည် မဟုတ်ပေ။ ထို့နောက် စခန်းပေါင်းများစွာတွင် စတည်းချပေလိမ့်မည်။ သို့သော် ၎င်းတို့ကို တည်ခင်းဧည့်ခံမည့်သူ ရှိမည် မဟုတ်ပေ။ အုပ်စုလိုက် အုပ်စုလိုက် စုရုံးကြပေမည်။ သို့သော် ၎င်းတို့သည် အချင်းချင်းကူညီရိုင်းပင်းကြမည် မဟုတ်ပေ။ အားလုံးသည် အလ္လာဟ်အရှင်မြတ်၏ စာ ရင်းအင်း စစ်ဆေးမှုကို စောင့်မျှော်နေကြပေလိမ့်မည်။

အိုး.... အီမာန်ရှင်အပေါင်းတို့...... ညည့်မရှိသော ထိုကဲ့သို့နေ့ (ကေယာမသ်နေ့) အတွက် ပြင်ဆင်ကြလေကုန်။ ထို့နောက် အသေးအဖွဲလေးကအစ စစ်ဆေးမေးမြန်ခြင်းခံရမည့် နေ့အတွက် ကြိုတင်ပြင်ဆင်ကြလေကုန်။ ထိုအချိန်တွင် ၎င်းကေယာမသ်နေ့ကြီးသည် မိမိ၏မူရင်းပုံစံကို အားလုံးရှေ့တွင် ပြသမည် ဖြစ်သည်။ ထို့နောက် အလွန်ကြီးကျယ်လှသော ဘေးဒုက္ခကြီးသည်လည်း အပြစ်ကျူးလွန်သူများကို ဝိုင်းရံလိုက်မည် ဖြစ်သည်။ ထိုအချိန်တွင် လောကီသက်တမ်းကို မိမိ

စိတ်အလိုကျ နေထိုင်ခဲ့သူများသည် ကြီးစွာ နောင်တရကြပေလိမ့်မည်။ ထို့နောက် တဖန်လောကကိုပြန်လည် လာရောက်ပြီး ကောင်းမှုများပြုရန် အလ္လာဟ်အရှင်မြတ်ထံတော်ပါးတွင် တောင်းခံကြပေလိမ့်မည်။ သို့သော်လည်း ၎င်းတို့အတွက် မည်သို့မျှ မဖြစ်နိုင်သော အရာဖြစ်သည်။ ထို့ကြောင့် ဤကြီးကျယ်လှသော နေ့ရက်ကြီးအတွက် ပြင်ဆင်ကြပါလေ။ ထို့နောက် အသင်တို့စောင့်ဆိုင်းနေသော ထိုနေ့ရက်ကြီးအတွက် ကောင်းမှုကုသိုလ်များ ပြုကြပါလေ။ ထို့ပြင်အသင်တို့သည် မွတ်စ်လင်မ်များအဖြစ်မှတစ်ပါး အခြားအဖြစ်နှင့် မသေဆုံးကြကုန်လင့်။ မုချထိုနေ့တွင်ဖြစ်ပျက်မည့် အဖြစ်အပျက်များက အသင်တို့ ထင်မှတ်ထားသည်ထက် ပို၍ကြီးကျယ်ပေသည်။ အသင်တို့ သတိချပ်ကြလေကုန်.....အကြောင်းကြားချက်၊ မှာကြားချက်၊ သတင်းတိုင်းအတွက် ကန့်သတ်ထားသော အချိန်တစ်ချိန်ရှိ၏။ စင်စစ် အသင်တို့သည် မကြာမီအတွင်း သိရှိကြမည် ဖြစ်သည်။ အိုး....အလ္လာဟ်အရှင် ကျွန်တော်မျိုးတို့၏ နှလုံးသည်းပွတ်များအားလုံးကို အရှင့်ကိုတသခြင်းဖြင့် ရှင်သန်စေတော်မူပါ။ ထို့နောက် ကျွန်တော်တို့အားလုံးကို အရှင်ကျေနပ်နှစ်သက်မည့် အအ်မလ်များကို ပြုကျင့်နိုင်စွမ်းပေးသနားတော်မူပါ။ ထို့ပြင်ကျွန်တော်မျိုးတို့အားလုံးကို အရှင့်အားယုံပုံအားကိုးသူများအဖြစ် ပြုပေးသနားတော်မူပါ။

နှလုံးသား၏ ရောဂါများကို ကုသပေးနိုင်သည့် တစ်ခုတည်းသော အရာမှာ အကွယ်တွင်ရှိသော အရာအားလုံးကို သိရှိတော်မူသော

အရှင်မြတ်၏ ကုရ်အာန်ကျမ်းတော်မြတ်ပင် ဖြစ်သည်။ "(အို-နဗီတမန်တော်) ၎င်းတို့သည် အသင့်အား "ကေယာမသ်" ရှင်ပြန်ထမည့် နေ့နှင့် စပ်လျဉ်း၍ ယင်း"ကိယာမသ်"ရှင်ပြန်ထမည့်နေ့သည် မည်သည့်အချိန်အခါ၌ ဆိုက်ရောက်အံ့နည်းဟု မေးမြန်းကြကုန်၏။ ယင်း"ကိယာမသ်" ရှင်ပြန်ထမည့်နေ့(ဆိုက်ရောက်မည့်အကြောင်းကို) ထုတ်ဖော် ပြောပြခြင်းသည် အသင်နှင့် မည်သို့ ပတ်သက်ပါသနည်း။ ယင်း"ကိယာမသ်" ရှင်ပြန်ထမည့်နေ့ (နှင့်စပ်လျဉ်းသောအသိပညာ)၏ အဆုံးမှာ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ အထံတော်၌သာ ဖြစ်ပေသည်။ အသင်သည် ယင်း"ကိယာမသ်" ရှင်ပြန်ထမည့်နေ့ကို မြင်ကြသောနေ့တွင် မိမိတို့မှာ (ကမ္ဘာလောက လောကီဘဝ၌) တစ်ညနေချမ်းမျှ သို့မဟုတ် ထိုညနေချမ်း၏ တစ်နံနက်ခင်းမျှသာ နေထိုင်ခဲ့ဘိသကဲ့သို့ ထင်မှတ်ကြအံ့သတည်း။ ၎င်းတို့သည် ယင်းကိယာမသ် ရှင်ပြန်ထမည့်နေ့ကို တွေ့မြင်ကြသောနေ့တွင် မိမိတို့မှာ (ကမ္ဘာလောက လောကီဘဝ၌ တစ်ညနေချမ်းမျှ သို့မဟုတ် ထိုညနေချမ်း၏ တနံနက်ခင်းမျှသာ နေထိုင်ခဲ့ဘိသကဲ့သို့ ထင်မှတ်ကြအံ့သတည်း" (၇၉-၄၂,၄၆)

# ဇွလ်ကအ်ဒဟ်လ

## ဒုတိယခွဲသ်ဗဟ်

ချီးမွမ်းထောမနာ ပြုမှုအပေါင်းသည် အရာအားလုံးကို အကြွင်းမဲ့ သိရှိတော်မူသော၊ စောင့်ရှောက်တော်မူသောအရှင် အတွက်သာ ဖြစ်တော်မူပါသည်။ အကြင်အရှင်မြတ်သည် အရာခပ်သိမ်းကို ဆုံးခန်းတိုင်စေတော်မူသော အရှင်ဖြစ်သကဲ့သို့ ကမ္ဘာ့လူသားထုတစ်ရပ်လုံးကို ကေယာမသ်နေ့တွင် ပြန်လည်စုစည်းတော်မူမည့် အရှင်လည်းဖြစ်တော်မူပေသည်။ ထို့နောက် အရှင်မြတ်ကို ပုံဖော်ခိုင်းနှိုင်း၍မရသကဲ့သို့ အရှင်မြတ်သည် လူတို့၏ အမြင်အာရုံများမှ ဖုံးကွယ်နေတော်မူသော အရှင်မြတ်လည်းဖြစ်တော်မူပေသည်။ အလ္လာဟ်အရှင်မြတ်သည် အလွန်ပင်သန့်ရှင်းစင်ကြယ်တော်မူပါသည်။ ထို့ပြင် အရှင်မြတ်သည် ထာဝရရှင်သန်တော်မူသော အရှင်ဖြစ်တော်မူပါသည်။ ထို့နောက် အလ္လာဟ်အရှင်မြတ်ဘက်တော်မှ ရိုဇီရိက္ခာမိုးများ ရွာသွန်းဖြိုးစေမည့် ချီးမွမ်းထောမနာပြုခြင်းဖြင့် အရှင်မြတ်အား ကျွန်တော်မျိုး ချီးမွမ်းထောမနာပြုပါသည်။ ထို့နောက် နလုံးသည်းပွတ်နှင့် နှုတ်လျှာတွင် အမြဲတစေတည်မြဲနေသော ပုံစံမျိုးနှင့် အလ္လာဟ်အရှင်မြတ်မှ တစ်ပါး အခြားခဝပ်းကိုးကွယ်ရာ၊ ယှဉ်တွဲကိုးကွယ်ရာ အရှင်မရှိကြောင်းကို ကျွန်တော်မျိုးသက်သေခံပါ၏။ ၎င်းနောက် ကိုယ်တော်မြတ်(ﷺ)သည် အလ္လာဟ်အရှင်မြတ်၏ ရစူလ်တမန်တော်ဖြစ်ကြောင်းကိုလည်း ကျွန်တော်မျိုးသက်သေခံပါ၏။ အရှင်မြတ်သည် ကိုယ်တော်သခင်ကို ပြုံးရွှင်သော

မျက်နှာ၊ စကားကြွယ်သောနှုတ်လျှာ၊ မှန်ကန်သောလမ်းစဉ်နှင့် တရားလမ်းမှန်တို့ကို ပေးသနားတော်မူပြီး ကမ္ဘာ့လူသားထုတစ်ရပ်လုံးဆီသို့ ကရုဏာရှင်အဖြစ်စေလွှတ်တော်မူခဲ့ပေသည်။ သို့ရှိရာ ကိုယ်တော်မြတ်(ﷺ)သည် လမ်းမှားများကို ပိတ်ပင်တားဆီးပြီး ဗရ်ကသ်မင်္ဂလာအဖြာဖြာနှင့် ပြည့်နှက်နေသော လမ်းမှန်တရားဘက်သို့ လူသားထုတစ်ရပ်လုံးကို ဖိတ်ခေါ်တော်မူလေသည်။ နောက်ဆုံးတွင် ကိုယ်တော်သခင်၏ ကြိုးပမ်းမှုကြောင့် အွမ္မသ်ထုတစ်ရပ်လုံးသည် မှန်ကန်သော လမ်းစဉ်ပေါ်တွင် လျှောက်လှမ်းနိုင်ကြပါသည်။ ကိုယ်တော်မြတ်(ﷺ)နှင့် ကိုယ်တော်မြတ်၏ မိသားစု အပေါ်ဝယ် အလ္လာဟ်အရှင်မြတ်ဘက်တော်မှ ကောင်းချီးမင်္ဂလာအပေါင်းကျရောက်ပါစေ။

အိုး.....အီမာန်ရှင်အပေါင်းတို့...... ညဥ့်အလားမည်းနက်နေသော ဆံပင်နှင့် မုတ်ဆိတ်များကြားမှာ နေ့ကဲ့သို့အဖြူရောင်အမွေးလေးများ ထွက်ပေါ်လာခြင်းသည် မကြာမီ တောင့်တင်းခိုင်မာလှသော အားအင်တို့ ပျက်သုဉ်းပြီး ဘဝ၏နိဂုံးစခန်းသို့ သွားရမည်ဆိုသည့် နမိတ်လက္ခဏာပင်ဖြစ်သည်။ ဤသည် ရှောင်လွှဲ၍မရသော အရာတစ်ခုဖြစ်သည်။ ထို့ပြင် ဤသေခြင်းတရားသည် မဖိတ်ခေါ်ဘဲလာသည့် ဧည့်သည်ဖြစ်သကဲ့သို့ ရှင်သန်ခြင်းကို ဖြတ်တောက်သော ဓားတစ်ချောင်းလည်းဖြစ်သည်။ ထိုမျှမက ၎င်းသည် လူသားကို ဆွေးမြေ့ခြင်းဆိုသော ဥာနီကိုပို့ပေးသည့် အရာလည်းဖြစ်သည်။

အိုး....မုအ်မင်န်အပေါင်းတို့.....အသင်တို့၏ ဗရ်ကသ်ရှိလှသော ဤဆံဖြူများ၏ နူးရ်(တောက်ပမှုလေး)ကို အကုသိုလ်၏ အကျဉ်းတန်မှုများနှင့် မဖျက်စီးလိုက်ပါနှင့်။ ထို့နောက် လောကတွင် ဖြစ်ပျက်နေသော အရာများကို နှလုံးသားအမြင်နှင့် ကြည့်၍သံဝေဂ ယူပါ။ ထို့အဖြစ်အပျက်များက "အသင်တို့သည် တစ်နေ့တွင် ဆံဖြူ၊ သွားကျိုးပြီးနောက် သေခြင်းတရားနှင့် ရင်ဆိုင်ရမည်" ဆိုသည့် အကြောင်းကို ဖော်ညွှန်းပြသနေပါသည်။ အသင်တို့သည် သေခြင်းတရားနှင့် ပတ်သက်ပြီး ယခုချိန်ထိ သတိလစ်မေ့မျောနေပါသလား? အမှန်တကယ် ဆံဖြူခြင်းဆိုသည်မှာ လောကီသက်တမ်း၏ ဖြည့်စွက်မရသော လစ်ဟာ မှုတစ်ခုပါ။

အိုး.... အဖိုးအိုတို့.... စိုက်ခင်းတစ်ခင်း၏ အပင်များဝင်းဝါပြီးသည့်နောက် အဖြူရောင်သန်းလာသော အချိန်သည် ၎င်းအပင်တို့၏ ရိတ်သိမ်းခံရမည့်အချိန် ဆိုသည်ကို သတိချပ်ပါ။ အိုး....လူလတ်ပိုင်းအရွယ်မှာရှိကြသည့် ပုဂ္ဂိုလ်တို့....အသီးတို့ မှည့်ချိန်သည် ၎င်းအသီးတို့ကို ခူးဆွတ်ရမည့်အချိန်ဆိုသည်ကို သတိချပ်ပါလေ။ အိုး.....လူငယ်တို့....အချို့သော စိုက်ခင်းများသည် သီး၊ပွင့်ချိန်မတန်ဘဲ ပျက်စီးသွားကြရသည်ဆိုသော အချက်လေးကိုလည်း သတိချပ်ကြပါလေ။ မုချ ဤအဖြစ်အပျက်များမှာ သေခြင်းတရားကို ပုံဖော်ပြသပေးနေသော အရာများပါ။ လောကတွင် ကျမ်းမာရေး၊ အောင်မြင်မှု၊ ကြွယ်ဝချမ်းသာမှု၊ နေရာထိုင်ခင်း အစရှိသော ဘယ်အရာမျှတည်မြဲခြင်းဆိုသည် မရှိပါ။

ဤမတည်မြဲမှုများက အရာတိုင်းတွင် ဆုံးခန်းတိုင်ခြင်းဆိုသည့် အချက် တည်ရှိကြောင်းကို ကျွန်ုပ်တို့အား ညွှန်ပြနေပါသည်။ သေခြင်းတရား က မည်သူ့ကိုမျှ စောင့်ဆိုင်းမည် မဟုတ်မည်ကို သိလျှက်နှင့်မိမိ၏ အမြဲ တစေနေထိုင်ရမည့် သက်တမ်းအတွက် မပြင်ဆင်ဘဲ ခရီးနှင်သွားသူ သည် အံ့သြစရာကောင်းပါသည်။ အလ္လာဟ်အရှင် ဤသူကို ကရုဏာ သက်တော်မူပါစေ။ ၎င်းသည် မိမိ အမြဲတစေနေထိုင်ရမည့် သက်တမ်း အတွက် ပြင်ဆင်မှုများပြုခဲ့လေသည်။ ထို့နောက် အလ္လာဟ်အရှင့်ကို အကြောက်တရားထားပြီး မိမိစိတ်ကို ချိုးနှိမ်ခဲ့၏။ ထို့နောက် ၎င်း သည် ဤအရာအားလုံးကို မိမိသက်တမ်းမကုန်ဆုံးမီအလျှင်၊ သေခြင်း တရား၏ နိမိတ်လက္ခဏာများ မဆိုက်ရောက်မီ အလျှင်မှာပင် ပြုလုပ်ခဲ့ ပေသည်။

အိုး.....မေ့လျော့နေသူအပေါင်းတို့....အကယ်၍ အသင်တို့သည် အလ္လာဟ်အရှင့်ထံတော်ပါးသို့ ပြန်လှည့်ရမည်ကို အပြည့်အ၀ ယုံကြည် ပါက အသင်တို့၏ အစိုင်အခဲဖြစ်နေသော မျက်ရည်များကို တောက် လောင်နေသော သောကမီးနှင့် အရည်ဖျော်လိုက်ပါလေ။ ထို့နောက် ချက်ချင်းပင် တမလွန်ခရီးအတွက် ရိက္ခာများကို ပြင်ဆင်ကြပါလေ။ "အသင်တို့သည် အကြင်နေ့မရောက်မီ မိမိတို့အား ဖန်းဆင်းမွေးမြူ တော်မူသောအရှင်မြတ်၏အမိန့်တော်ကို နာယူကြလေကုန်။ အလ္လာဟ် အရှင်မြတ်၏ထံတော်မှ ယင်းနေ့ကို လွှဲဖယ်ခြင်း၊ ရွှေ့ဆိုင်းခြင်း၊ ဟူ၍ အလျှင်းရှိလိမ့်မည် မဟုတ်ပေ။ (တနည်း) (အသင်တို့သည် မိမိတို့ကို

ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ အမိန့်တော်ကို အလ္လာဟ် အရှင်မြတ် ထံတော်မှ အကြင်နေ့ ရောက်မလာမီ နာယူကြလေကုန်။ ယင်းနေ့ကို မည်သူတစ်ဦးတစ်ယောက်မျှပင် ရွှေ့ဆိုင်းနိုင်မည် မဟုတ်ပေ။) ထိုနေ့တွင် အသင်တို့၌ ခိုလှုံရာဌာနဟူ၍လည်း အလျှင်းရှိမည် မဟုတ်ပေ။ အသင်တို့နှင့်ပတ်သက်၍ ဟန့်တားအံ့သော သူဟူ၍ (အသင်တို့အား မမှတ်မိနိုင်ရန် အကြောင်းဟူ၍ အသင်တို့၌ ငြင်းဆိုနိုင်ခြင်းဟူ၍) လည်းရှိလိမ့်မည် မဟုတ်ပေ။ (၄၂-၄၇) အလ္လာဟ်အရှင်ကျွန်တော်မျိုးတို့အားလုံးကို ဆင်ခြင်တုံတရားထားရှိသူများအဖြစ် ပြုပေးသနားတော်မူပြီး လောက၌ ဖြစ်ပျက်နေသော အဖြစ်ပျက်များကို ကြည့်ကာ သံဝေဂတရားယူပြီး ကောင်းမှုများကို ကျင့်ဆောင်သူ၊ မကောင်းမှုများကို ရှောင်ကျဉ်သူများအဖြစ် ပြုပေးသနားတော်မူပါစေ။

သီကုံးထားသော အရာများအနက်မှ အပြောင်မြောက်ဆုံး စာသားနှင့် နှလုံးသည်းပွတ်တို့ ငြိမ်းအေး ကြည်နူးရာမှာ ကုရ်အာန်ကျမ်းတော်မြတ်လာ အာယသ်တော်ပင် ဖြစ်ပါသည်။ "၎င်းပြင် အလ္လာဟ် အရှင်မြတ်သည်ပင် အသင်တို့အားဖန်ဆင်းတော်မူလေသည်။ တဖန် ထိုအရှင်မြတ်သည်ပင် အသင်တို့အား သေဆုံးစေတော်မူလေသည်။ ထို့ပြင် အသင်တို့တွင် အညံ့ဆုံးသော အသက်အရွယ်သို့ ပြန်ရောက်စေခြင်းကို ခံရသောသူများလည်း ရှိပေသည်။ နောက်ဆုံးတွင် ထိုသူများသည် သိပြီးနောက် (သတိပညာ ချွတ်ယွင်းသွားသောကြောင့်) မည်သည့် တစ်စုံတစ်ရာကိုမျှ သိနားလည်ခြင်းမရှိ(ကြ) တော့ချေ။ ကေန်စင်

စစ် အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို သိတော်မူသောအရှင်၊ အရာခပ်သိမ်းတို့ကို စွမ်းဆောင်နိုင်တော်မူသောအရှင်၊ ဖြစ်တော်မူပေသတည်း။" (၁၆-၇၀)

## ဇွလ်ကအ်ဒဟ်လ

## တတိယခွဲသ်ဗဟ်

ချီးမွမ်းထောမနာပြုမှုအပေါင်းသည် ပုံပမာခိုင်းနှိုင်း၍မရသည့် တစ်ပါးတည်းသော အရှင်အတွက်သာဖြစ်တော်မူပါသည်။ ထိုအရှင် မြတ်ကို စက္ခုအာရုံများက မြင်နိုင်စွမ်းမရှိပေ။ သို့သာမက အရှင်မြတ် ကို အတွေးများနှင့်ပုံဖော်၍လည်း မရနိုင်ပါ။ ထိုအရှင်မြတ်သည် လျှော့ နည်းမှုအပေါင်းမှ ကင်းစင်တော်မူသကဲ့သို့ အရပ်မျက်နှာများသည် လည်း ထိုအရှင်မြတ်ကို ဝန်းရံနိုင်ခြင်းမရှိပေ။ ထို့နောက် အရှင်မြတ် သည်သာ အမြဲတစေတည်ရှိတော်မူသောအရှင်၊ တစ်ပါးတည်း တည်ရှိ တော်မူသောအရှင်၊ လိုလားတောင်းတမှု ကင်းတော်မူသောအရှင်၊ အရာ ခပ်သိမ်းကို စွမ်းဆောင်နိုင်တော်မူသောအရှင် ဖြစ်တော်မူပါသည်။ "ထို အရှင်မြတ်နှင့် တူသောအရာဟူ၍ကား မည်သည့် တစ်စုံတစ်ရာမျှပင် မ ရှိပြီ။ ထို့အရှင်မြတ်သည်ပင် အကြွင်းမဲ့ ကြားတော်မူသောအရှင်၊ မြင် တော်မူသောအရှင် ဖြစ်တော်မူ၏" (၄၂-၁၁) အလ္လာဟ်အရှင်မြတ်သည် သန့်ရှင်းစင်ကြယ်တော်မူပြီး ထိုအရှင်မြတ်မှတစ်ပါး အခြားခဝပ်ကိုး ကွယ်ရာ အရှင်မရှိပေ။ ကျွန်တော်တို့ကို မွတ်စ်လင်မ်များအဖြစ် ပြုပေး ထားတော်မူသော အလ္လာဟ်အရှင်မြတ်ကို ကျွန်တော်မျိုးတို့ ချီးမွမ်း ထောမနာ ပြုပါ၏။ ထို့နောက် အလ္လာဟ်အရှင်၏ ကျေးကျွန်များကို အရှင့်သားသမီးများအဖြစ်ပြုလုပ်ခြင်းမှ ကျွန်တော်မျိုးတို့ ကင်းစင် ကြောင်းမြွက်ဟပါ၏။

အလ္လာဟ်အရှင်မြတ်မှတပါး အခြားခ၀ပ်ယှဉ်တွဲကိုးကွယ်ရာ အရှင်မရှိကြောင်းကို ကျွန်တော်မျိုးသက်သေခံပါ၏။ ထို့နောက် ကိုယ်တော်မြတ်(ﷺ)သည် မှန်မြတ်မှုအပေါင်းနှင့် ပြည့်စုံနေသော အရှင့်ရစူလ်စေတမန် ဖြစ်ကြောင်းကိုလည်း ကျွန်တော်မျိုးသက်သေခံပါ၏။ ဆိုးသွမ်းမိုက်မဲသူတို့၊ (ကာဖိရ်)သွေဖည်ငြင်းဆန်သူတို့ ပတ်ဝန်းကျင်တွင် လွှမ်းမိုးနေသော အချိန်မျိုးတွင် အလ္လာဟ်အရှင်မြတ်သည် ကိုယ်တော်မြတ်(ﷺ)ကိုစေလွှတ်တော်မူခဲ့၏။ သို့ရှိရာ ကိုယ်တော်သခင်(ﷺ) က မိမိ အွမ္မသ်ကို နှုတ်ဖြင့်သော်လည်းကောင်း၊ အပြုအမူများဖြင့်သော်လည်းကောင်း ဆုံးမပဲ့ပြင်ခဲ့သည်။ ထို့နောက် ကောင်းမွန်သောနည်းလမ်းများကို အွမ္မသ်အား ရှင်းလင်းချပြပေး၏။ ထို့နောက် ကိုယ်တော်မြတ်(ﷺ)သည် အခြေအနေအရပ်ရပ်တိုင်းတွင် အွမ္မသ်ကို အလ္လာဟ်အရှင့်ဘက်တော်သို့ ဖိတ်ခေါ်မှုပြုပေ၏။ နောက်ဆုံးတွင် ကိုယ်တော်မြတ်၏ ဤကျိုးပမ်းမှုကြောင့် လမ်းမှားသည် တံလှပ်ကဲ့သို့ တစ်စတစ်စနှင့်ပျောက်ကွယ်သွားပေသည်။ ကိုယ်တော်မြတ်(ﷺ)နှင့် ကိုယ်တော်မြတ်(ﷺ)၏ အိမ်သူအိမ်သားများအပေါ်ဝယ် အလ္လာဟ်အရှင်မြတ်ဘက်တော်မှ ကောင်းချီးမင်္ဂလာအပေါင်းကျရောက်ပါစေ။

အိုး....... အီမာန်ရှင်အပေါင်းတို့.... အသင်တို့သည် မကောင်းသော ကိစ္စရပ်များ ပြောဆိုခြင်းမှ မိမိတို့နှုတ်လျှာကို ထိန်းသိမ်းကြလေကုန်။ ထို့နောက် မုသားပြောခြင်းမှလည်း မိမိတို့နှုတ်လျှာကို ထိန်းသိမ်းကြလေကုန်။ မှတ်သားထားကြပါလေ...... အလ္လာဟ်အရှင်သည်

အသင်တို့ ပြောဆိုနေသော စကားရပ်တိုင်းကို အကြွင်းမဲ့ ကြားသိရှိတော်မူလေသည်။ မုချ အသိဉာဏ်ရှိသူသည် မိမိအတွက် အကျိုးရှိမည့် လုပ်ရပ်များတွင် နစ်မွန်းလေ၏။ ထို့နောက် မြန်မာ စကားပုံမှာလည်း ဤသို့လာရှိပါသည်။ "ကြမ်းကျွံလျှင်နုတ်လို့ရပြီး စကားကျွံလျှင် နုတ်လို့မရပါ"သို့ရှိရာ မိမိ အပြစ်များကို ကောင်းစွာသိနားလည်သူသည် အခြားသူ၏ အပြစ်များကို သတိမူမည် မဟုတ်ပါ။ ထို့ပြင် မိမိစိတ်ကို ကိုးကွယ်သူသည် ၎င်း၏နိဂုံးလှမည်မဟုတ်သကဲ့သို့ မိမိဘဝကို မပြုပြင်သူသည်လည်း ၎င်း၏ ဇာတ်သိမ်းကောင်းမည် မဟုတ်ပါပေ။ ၎င်းနောက် မွတ်စ်လင်မ်တစ်ဦး၏ သိက္ခာကိုထိပါး၍ အတင်းပြောသူကို အလ္လာဟ်အရှင်ကိုယ်တော်တိုင် တရားစွဲဆိုမည်ဖြစ်သည်။ ထိုသို့အတင်းပြောခြင်း၊ နားထောင်ခြင်းနှင့် ပတ်သက်၍ ကိုယ်တော်မြတ်(ﷺ) ကိုယ်တော်တိုင် မိမိ၏ ဆုံးမဩဝါဒတော်များတွင် အတိအလင်း တားမြစ်ထားခြင်းဖြစ်၏။ အိုး......အလ္လာဟ်အရှင့်၏ ကျေးကျွန်တို့..... လောကီအမြင်အရ သေးငယ်သော်လည်း နောင်တမလွန်တွင် အပြစ်ကြီးစွာခံရမည့် စကားရပ်မျိုးများပြောဆိုခြင်းမှ အလ္လာဟ်အရှင်မြတ်ကို အကြောက်တရားထားရှိပါလေ။ မြောက်မြားစွာသော အပါယ်ငရဲ ကျစေသည့် ပြစ်မှုများမှာ နှုတ်လျှာဖြင့်ကျူးလွန်သော ပြစ်မှုများပင် ဖြစ်၏။ ဤပြစ်မှုများပင် ကျူးလွန်သူတို့ကို ဂျဟန္နမ်အပါယ်ငရဲတွင် ပွက်ပွက်ဆူနေသော ရေပူကို သောက်စေခြင်းဖြစ်သည်။ ထို့ပြင် ဤသို့သော ဌာနတွင် ၎င်းတို့ကို စတည်းချစေ၏။ ဤနေထိုင်ရာဌာနီမှာ ချုပ်နှောင်

ခံရသော အကျဉ်းသားသည် လွတ်မြောက်ရာမရှိသကဲ့သို့ ထိုဌာနီမှာ စတည်းချသော အသက်ကြီးရင့်သူကလည်း ဂုဏ်ပေးခံရမည် မဟုတ်ပါ။ ထို့ပြင် အသက်ငယ်သူလည်း သနားကြင်နာခံရမည် မဟုတ်ပါ။ ထိုဌာနီ၏ ငရဲမီးသည် မည်သည့်အခါမှ ငြိမ်းမသွားသည့်အပြင်ထို အပါယ်ငရဲကိုလားရသူတို့ ဝတ်ဆင်ရမည့် အဝတ်အစားများကလည်း သံထည်များနှင့် ပြုလုပ်ထားခြင်းဖြစ်သည်။ ထို့စခန်း၌ ၎င်းသူတို့သောက်သုံးရမည့် အရာသည် မန်းရည်ပြည်ရည်များပင်ဖြစ်သည်။ ထို့နောက် တစ်နေ့တစ်မျိုး ပြစ်ဒဏ်အသစ်များ ခံစားရပြီး ၎င်းတို့အတွက်တော့ ဤဒဏ်ခတ်မှုများမှ လွတ်လမ်းရှိမည် မဟုတ်ပေ။ ၎င်းတို့သည် မျှော်လင့်ချက်ကင်းပြီး ငိုယို ကြလိမ့်မည်။ သို့သော် သနားခြင်းခံရမည် မဟုတ်ပေ။ အပြစ်များကို ဆိုင်းငံ့ရန်တောင်းဆိုလျှင်လည်း လက်ခံခြင်းခံရမည် မဟုတ်ပေ။ ထို့ပြင် အလ္လာဟ်အရှင်မြတ်က ထိုသူတို့ကို ကရုဏာအရှုဖြင့် ရှုတော်မူမည် မဟုတ်ပေ။ ထို့ပြင် ဂျဟန္နမ်ငရဲမီးကလည်း ၎င်းသူတို့ကို ပြင်းထန်စွာ လောင်မြိုက်ပေလိမ့်မည်။ ထိုအခါ ၎င်းတို့က "ငါတို့တော့ ပျက်စီးရလေခြင်း" ဆိုသောစကားရပ်ကို ရေရွတ်နေကြပေလိမ့်မည်။ မည်သို့ပင်ဆိုစေကာမူ သေးသိမ်ခြင်းသည် အတွင်းအကျိုးပမာ ၎င်းတို့နှင့်တွယ်ကပ်နေပြီး ကရုဏာအရှင်၏ အမျက်ထွက်မှုကိုပါ အကြင်သူတို့ ခံစားရမည် ဖြစ်သည်။ ၎င်းတို့အတွက် လွတ်မြောက်ရာဌာနီဟူ၍ မရှိသကဲ့သို့ ခိုလှုံရာဟူ၍ ဤဌာနီအပြင် အခြားဌာနီမရှိပေ။

အိုး....အီမာန်ရှင်အပေါင်းတို့......အသင်တို့သည် မိမိတို့နှုတ်လျှာကို ထိန်းသိမ်းခြင်းဖြင့် အပါယ်ငရဲလားရခြင်းမှ ကိုယ့်ကိုယ်ကို ကယ်တင်ကြကုန်။ ထို့နောက် အသင်တို့သည် ဂျန္နသ်သုခဘုံကို လက်မဲ့ဖြစ်စေမည့် လုပ်ရပ်များမှ ရှောင်ရှားပါလေ။ လက်လွတ်ဆုံးရှုံးရပြီးမှ နောင်တရခြင်းသည် အသင်တို့ကို မည်သည့်အကျိုးရလာဘ်မျှ ဖြစ်ထွန်းစေမည် မဟုတ်ပေ။ ထို့နောက် သေဆုံးပြီးမှ ပြသော ဆင်ခြေများသည် လက်ခံခြင်း ခံရမည်မဟုတ်ပေ။ အလ္လာဟ်အရှင် ကျွန်တော်မျိုးတို့အားလုံးကို မိမိ၏ နှုတ်လျှာနှင့် နှလုံးသားတို့ကို အကုသိုလ်များမှ သန့်စင်စွာထားရှိသူများအနက်မှ ပြုပေးသနားတော်မူပါစေ။ ထို့ပြင် အလ္လာဟ်အရှင်တစ်ပါးတည်း၏ ကျေနပ်နှစ်သက်မှုရရှိရန် အအ်မလ်များပြုကျင့်သူများအဖြစ် ပြုပေးသနားတော်မူပါ။ ထို့နောက် အားလုံးသောသူတို့ ပူဆွေးသောကရောက်ရမည့်နေ့(ကေယာမသ်နေ့)မှာ ကျွန်တော်မျိုးတို့ကို အရှင့်ဘက်တော်မှ တည်ငြိမ်အေးချမ်းမှုကို ချီးမြှင့်ပေးသနားတော်မူပါ။

မုချ အကောင်းမွန်ဆုံးနှင့် အမှန်ကန်ဆုံး၊ သတိပေးနှိုးဆော်သောနေရာတွင် အထိုက်သက်ဆုံး၊ တရားဒေသနာဟောကြားသည့်နေရာတွင် အသင့်လျော်ဆုံး စကားရပ်မှာ လူသားကိုဖန်ဆင်းပြီး ၎င်းလူသားကို စကားပြောတတ်ရန် သင်ပေးတော်မူသော အလ္လာဟ်အရှင်မြတ်၏မုကၡပါဠ်တော် ဖြစ်ပါသည်။ "အို-'မုအ်မင်န်' သက်ဝင်ယုံကြည်သူအပေါင်းတို့၊ အသင်တို့သည် များစွာသော ထင်မြင်ယူဆချက်များမှ

ကြည်ရှောင်ကြလေကုန်။ စင်စစ်ကေန် အချို့သော ထင်မြင်ယူဆချက်များမှာ အပြစ်ပင်ဖြစ်ပေသည်။ ၎င်းပြင် အသင်တို့သည် (သူတပါးတို့၏ချွတ်ယွင်းမှုများကို) ထောက်လှမ်းစူးစမ်းခြင်း မပြုကြလေကုန်လင့်။ ထို့ပြင် အသင်တို့အနက် တစ်ဦးသည်တစ်ဦး၏ နောက်ကွယ်၌ အတင်းပြောဆိုခြင်းကို မပြုရ။ အသင်တို့အနက် တစ်ဦးတစ်ယောက်သည် မိမိညီအစ်ကို၏ အသေသားကို စားသုံးရန် နှစ်သက်ပါမည်လော။ စင်စစ်အသင်တို့သည် ထို(အသေသားစားခြင်း)ကို စက်ဆုပ်ကြမည်သာ။ ထိုမှတပါး အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေကြလေကုန်။ မလွဲကေန် အလ္လာဟ်အရှင်မြတ်သည် ဝန်ချတောင်းပန်ခြင်းကို အလွန်တရာ လက်ခံတော်မူသောအရှင်၊ အလွန်တရာ သနားကြင်နာတော်မူသော အရှင်၊ ဖြစ်တော်မူပေသတည်း။ (၄၉-၁၂)

## ဇုလ်ကအ်ဒဟ်လ

## စတုတ္ထခွသ်ဗဟ်

ချီးမွမ်းထောမနာ ပြုခြင်းအပေါင်းသည် မြေပထဝီနှင့် ၎င်းမြေပထဝီအပေါ် ရှိရှိသမျှအရာအားလုံးကို ပိုင်စိုးတော်မူသောအရှင်အတွက်ဖြစ်တော်မူပါ၏။ ထိုအရှင်မြတ်သည် လူသားကို မြေပထဝီနှင့်ဖန်ဆင်းပြီး ၎င်းလူသားကို ယင်းမြေထဲသို့ပင် ပြန်လည် ထည့်သွင်းတော်မူလေ၏။ ထို့နောက် အရှင်မြတ်သည် သက်ရှိတိုင်းအတွက်သေခြင်းတရားကို သတ်မှတ်ထားပေသည်။ ထို့နောက် အရှင်မြတ်သည် မောက်မာသူတိုင်းကို သေးသိမ်းစေတော်မူလေသည်။ အလ္လာဟ်အရှင်၏ သတ်မှတ်ချက်တိုင်းအတွက် အရှင်မြတ်အား ကျွန်တော်မျိုး ချီးမွမ်းထောမနာပြုပါ၏။

အလ္လာဟ်အရှင်မှတပါး အခြားခဝပ်ကိုးကယ်ရာ အရှင်မရှိကြောင်းကို ကျွန်တော်မျိုးသက်သေခံပါသည်။ ထို့နောက် ကိုယ်တော်မြတ်(ﷺ)သည် အလ္လာဟ်အရှင်မြတ်၏ ရစူလ်တမန်တော်ဖြစ်ကြောင်းကိုလည်း ကျွန်တော်မျိုး သက်သေခံပါသည်။ အရှင်မြတ်သည် ကိုယ်တော်သခင်(ﷺ)ကို မိမိအမိန့်နာခံသူတို့အား သတင်းကောင်းပေးရန်နှင့် မိမိအား ဖီဆန်သူများကို သတိပေးခြိမ်းခြောက်ရန်အတွက် စေလွှတ်တော်မူခဲ့လေသည်။ သို့ရှိရာ ကိုယ်တော်သခင်(ﷺ)သည် အမှန်တရားကိုဆန့်ကျင်သူတို့အား တွန်းလှန်တော်မူပြီး လမ်းမှန်ကို ရှင်းလင်းပြတ်သားစွာချပြခဲ့သည်။ ထို့နောက် အဖျက်အမှောင့်လုပ်ငန်းများကို အမြစ်

ပါမကျန် ဖယ်ရှားတော်မူလေ၏။ ထို့နောက် အလ္လာဟ်အရှင့်အမိန့်နာခံ
သော သူတို့ကို ဖေးမကူညီတော်မူခဲ့၏။ နောက်ဆုံးတွင် အစ္စလာမ်
သာသနာတော်ကြီးသည် လူတို့ကြားဝယ် ထင်ရှားစွာ ပေါ်လွင်လာပြီး
လမ်းမှားသူတို့၏ တိုက်ခိုက်မှုများသည် တဖြည်းဖြည်း ပျောက်ကွယ်
လာသည်။ ထိုအခါ အီမာန်၏ မီးရှူးတန်ဆောင်ကြီးသည် လူ့ပတ်ဝန်း
ကျင်ကြီးတွင် လင်းဝင်းတောက်ပလာပါတော့သည်။ အလ္လာဟ်အရှင်
ကိုယ်တော်မြတ်နှင့် ကိုယ်တော်မြတ်သခင်၏ မိသားစုအပေါ်ဝယ်
ကောင်းချီးမင်္ဂလာများ ချပေးသနားတော်မူပါစေ။

အိုး..... မုအ်မင်န်တို့....... မုချကျွန်ုပ်တို့သည် အမှန်နှင့်အမှားကို
ဝေခွဲမရသော ခေတ်ကြီးတွင် ရှင်သန်နေရခြင်းဖြစ်သည်။ ထို့နောက်
ကျွန်ုပ်တို့သည် အလျှင်အမြန်ပျက်စီးရတော့မည့် ခေတ်ကြီးတွင် ရှင်
သန်နေကြရခြင်းဖြစ်သည်။ ထိုခေတ်တွင် တာဝန်များထမ်းဆောင်ရ
ခြင်းသည် ကျွန်တော်တို့အတွက် အလွန် ခက်ခဲပြီး ကျွန်တော်တို့သည်
ဤခေတ်ကြီးတွင် မြေပထဝီက အမျိုးမျိုးပြောင်းလဲစေသော ပေါက်ပင်
များကဲ့သို့ပင်။ ကျွန်တော်တို့ ကိုယ်တိုင်မလုပ်သောအရာများကို ကျွန်
တော်တို့ လုပ်သည့်အလား ပြောဆိုနေကြသည်။ ဦးနှောက်နှင့် လက်မ
ခံနိုင်သော အရာများကိုလည်း ကျွန်တော်တို့ ပြုလုပ်နေကြသည်။ မည်
သူမှန်းမသိသူ တစ်ယောက်၏နောက်သို့ ထပ်ကြပ်မကွာ ကျွန်တော်တို့
လိုက်နေကြသည်။ ကျွန်တော်တို့သည် မိမိတို့ ပြောဆိုခဲ့သောစကား
များ၊ မိမိပြုကျင့်ခဲ့သော လုပ်ရပ်များနှင့် ပတ်သက်၍ စစ်ကြောမေးမြန်း

ခြင်း မခံရတော့မည့် အတိုင်းပင်။ လက်ရှိအခြေအနေများမှာ ကောင်းစွာရှင်သန်ခွင့်ရနေခြင်းသည် ကျွန်တော်တို့ကို မောက်မာပလွှားစေခဲ့သည်။ သေးသိမ်သူတို့က သူမွန်သူမြတ်တို့အပေါ် နိုင်ထက်စီးနင်းပြုလေတော့သည်။ ထို့နောက် အသိဉာဏ်သိမ်ဖျင်းသူက ဂုဏ်သိက္ခာရှိသူအပေါ် မတရားပြုကြလေတော့သည်။ ထိုအခါ သူမွန်သူမြတ်တို့အတွက် ဝန်းရံပေးမည့် ဥပဒေများ မရှိကြတော့သကဲ့သို့ မကောင်းမှုများကို ကာကွယ်တားဆီးပေးမည့် နည်းဥပဒေများလည်း မရှိကြတော့ပေ။ ထို့နောက် အပြစ်ကျူးလွန်သူကမိမိတို့၏ မကောင်းမှုများကို အစ်သင်ဖာရံဖြင့် ဖာထေးမှုများ မပြုကြတော့ပေ။ ထိုမျှမက မှားယွင်းသောအတွေးအခေါ်များကိုပါ ယကီးန်ဖြင့် ကုစားမှုမပြုကြတော့ပေ။ မုချကေန် လောကကြီး၏ နေဝင်ချိန်သည် နီးလာပြီဖြစ်သည်။ ထို့နောက် အလ္လာဟ်အရှင်၏ သတ်မှတ်ချက်များကလည်း ကျရောက်လာတော့မည် ဖြစ်သည်။ အရာခပ်သိမ်းလည်း ပျက်စီးမည့် အချိန်ကို ဆိုက်ရောက်ရတော့မည် ဖြစ်တယ်။ ထိုအခါ ကြေငြာသူက ဤသို့ ကြေငြာလိမ့်မည်။ "အသင်တို့အားလုံးသည် ပြန်လည်ရှင်ပြန်ထရမည့် ကေယာမသ်နေ့အတွက် သေကြေပျက်စီးကြလေကုန်။ ထို့ပြင် အသင်တို့သည် ကဗရ်ကျင်းများ၏ ဝါးမျိုခြင်းကို ခံစားကြလေကုန်"

အိုး......မုအ်မင်န်တို့....အသင်တို့သည် လျှင်မြန်စွာ ရောက်ရှိလာမည့် သေခြင်းတရား၊ တစ်မုဟုတ်ချင်း စစ်ကြောမေးမြန်ခံရမည့် စာရင်းစစ်ဆေးမှုအတွက် ပြင်ဆင်ကြလေကုန်။ မိုးကောင်းကင်ကြီး အက်ကွဲ

သွားသည့်အခါ၊ တောင်တန်းများအစိတ်စိတ်အမွှာမွှာဖြစ်ပြီး လေပေါ် ပျံ့ဝဲနေသည့်အခါ၊ သေသူအပေါင်းသည် မိမိတို့ကဗရ်ကျင်းများမှ ပြန် လည်ရှင်ပြန်ထရမည့်အခါ၊ ကောင်းမှုနှင့်မကောင်းမှု မှတ်တမ်းကြီးများ ကို လူတိုင်းအား အပ်နှံခံရသည့်အခါတွင် လောကီ၌ အပြစ်ကျူးလွန် ကြသူတို့၏ မျက်စိမျက်ဆံများသည် မျက်တောင်မခတ်ဘဲ စူးစိုက်လျက် ရှိနေကြလိမ့်မည်။ ထိုအခါ အကုသိုလ်ကျူးလွန်သူတို့အပေါ် ကေယာ မသ်နေ၏ပြစ်ဒဏ်ခတ်မှုများ ရောက်ရှိလာပြီး တစ်ချိန်က လောကီတွင် ၎င်းမောက်မာသူတို့ ပြသခဲ့သော အားအင်များမှာလည်း ၎င်းတို့ထံမှ ပျောက်ကွယ်သွားလေသည်။ ထို့နောက် အလ္လာဟ်အရှင်မြတ်သည် မိမိ အား အကြောက်တရား ထားရှိသူတို့အဖို့ ဂျန္နသ်သုခဘုံကို နီးကပ် အောင်ပြုပေးသနားတော်မူပြီး သွေဖည်ငြင်းဆန်သူများ အဖို့ အပါယ် ငရဲကို တောက်လောင်စေမည် ဖြစ်သည်။ ထိုအခါ သားသမီးဖြစ်သူက မိမိ၏ မိခင်၊ဖခင်ထံမှ ထွက်ပြေးတိမ်းရှောင်မှာဖြစ်သကဲ့သို့ လောက၌ မိမိကိုယ်မိမိ မတရားပြုခဲ့သူကလည်း ကိုယ့်လက်ကိုကိုက်ကာ ဝမ်းနည်း ပူဆွေးကြပေလိမ့်မည်။ ထို့နောက် လူသားတို့၏ ကောင်းမှု၊ မကောင်း မှုများကို ချိန်တွယ်ရန် အလ္လာဟ်အရှင်မြတ်ဘက်တော်မှ မှန်ကန်တိ ကျသော ချိန်ခွင်များကို ထားရှိပေလိမ့်မည်။ "ထိုအခါ အကြင်သူ၏ ချိန်စက်ခြင်းခံရသော (ကောင်းမှု)များသည် အချိန်စီးခဲ့ပါမူ။ ထိုသူသည် စိတ်တိုင်းကျစည်းစိမ်၌ (မွေ့လျော်စွာ) ရှိပေမည်။ သို့ရာတွင် အကြင် သူ၏ချိန်စက်ခြင်းခံရသော (ကောင်းမှု)များသည် (အချိန်မစီးဘဲ) လျော့

နည်း၍ နေသည်ရှိသော်။ ထိုသူ၏ နေထိုင်ရာဌာနမှာ နက်ရှိုင်းသော ငရဲတွင်းပင် ဖြစ်ပေမည်။ စင်စစ် ထိုငရဲတွင်းဟူသည် အဘယ်နည်းဟု အသင်သိပါသလော။ (ထိုငရဲတွင်းမှာကား)အလျှံပြောင်ပြောင်တောက် လောင်လျက်ရှိသော (ငရဲ)မီးပင် ဖြစ်ချေသတည်း" (၁၀၁-၁၁)

အလ္လာဟ်အရှင်မြတ် ကျွန်တော်တို့၏ အအ်မလ်များကို ကောင်း မှုကုသိုလ်များနှင့် အချိန်စီးစေတော်မူပါ။ ထို့နောက် ကျွန်တော်တို့၏ မှတ်တမ်းမှတ်ရာများကိုလည်း မကောင်းမှုအကုသိုလ်များမှ သန့်စင် ပေးသနားတော်မူပါ။ ထို့နောက် ကေယာမသ်နေ့တွင် ကျွန်ုပ်တို့၏ ဝန် ထုတ်ဝန်ပိုးများကို ပေါ့လျော့စေတော်မူပါ။

အကြားအာရုံနှင့် နှလုံးသည်းပွတ်တို့ အတောင်းတဆုံးအရာမှာ ဖုံကွယ်နေသော အရာခပ်သိမ်းကို သိရှိတော်မူသော အလ္လာဟ်အရှင် မြတ်၏ မုကျွပါဠ်တော်ပင် ဖြစ်သည်။ "သက်ရှိသတ္တဝါတိုင်းသည် 'မရ ဏ' သေခြင်းတရား၏ ရသာကို မြည်းစမ်းကြရမည်။ တစ်ဖန် အသင် တို့သည် 'ကိယာမသ်'ခေါ်(သေပြီးနောက်) ရှင်ပြန်ထရမည့်နေ့၌သာ လျှင် မိမိတို့၏ (ကောင်းမှုမကောင်းမှုတို့၏) အကျိုးများကို အပြည့် အစုံပေးခြင်းခံကြရပေမည်။ သို့ဖြစ်ပေရာ အကြင်သူသည် ငရဲမီးဘေးမှ ဖယ်ရှားခြင်းခံရ၍ 'ဂျန္နသ်'အမတသုခဘုံသို့ ဝင်ရောက်စေခြင်းကိုခံရ အံ့။ သို့ဖြစ်ရာ ထိုသူသာလျှင် စင်စစ်ကေန် အောင်မြင်သောသူ ဖြစ်ပေ သည်။ အမှန်သော်ကား (နောင်တမလွန်ဘဝသည် သာလျှင် အမြဲခံစား

ရမည့် ဘဝဖြစ်၍ ဤပစ္စက္ခမျက်မှောက်) လောကီဘဝသည်ကား ထင်ယောင်ထင်မှားဖြစ်စေသော ပစ္စည်းမျှသာ ဖြစ်ချေသည်" (၃-၁၈၅)

## ဇွလ်ကအ်ဒဟ်လ

## ပဉ္စမခွသ်ဗဟ်

ချီးမွမ်းထောမနာပြုခြင်းအပေါင်းသည် အမြဲရှင်နေတော်မူသော အရှင်၊ သတ္တဝါအပေါင်းတို့ကို ထိန်းသိမ်းစောင့်ရှောက်တော်မူသော အလ္လာဟ်အရှင်မြတ် တစ်ပါးတည်းအတွက်သာ ဖြစ်တော်မူပါ၏။ ထို အရှင်မြတ်က နီးကပ်ခွင့်ပေးသူသာ အရှင်နှင့် နီးကပ်ခွင့်ရမည်ဖြစ် သည်။ ထို့နောက် အလ္လာဟ်အရှင်မြတ်သည် တစ်ပါးတည်း တည်ရှိ တော်မူသောအရှင်ဖြစ်သကဲ့သို့ ခဝပ်ကိုးကွယ်ခြင်းခံထိုက်တော်မူသော အရှင်လည်း ဖြစ်တော်မူပါသည်။ ၎င်းတရားမျှတတော်မူသောအရှင် မြတ်သည် လူသားကို သွန်းလောင်းခြင်းခံရသော ကလလရည်ကြည် ဖြင့် ဖန်ဆင်းတော်မူလေသည်။ "နောက်ဆုံးတွင် ထိုအရှင်မြတ်သည် ဒုစရိုက်မှုကို ကျူးလွန်ခဲ့ကြသော သူတို့အား ၎င်းတို့ ကျူးလွန်ခဲ့ကြ သည့် အကုသိုလ်အကျိုးကို ပေးတော်မူအံ့၊ ထိုနည်းတူစွာ ထိုအရှင် မြတ်သည် ကောင်းမှု ပြုခဲ့ကြသောသူတို့အား ကောင်းမြတ်သော အကျိုးပေးတော်မူအံ့" (၅၃-၃၁) အလ္လာဟ်အရှင်မြတ်ချီးမြှင့်တော်မူ ထားသောနေ့အ်မသ်များအပေါ် အရှင်မြတ်အား ကျွန်တော်မျိုးချီးမွမ်း ထောမနာပြုပါ၏။ ထို့နောက် သိလျှက်နှင့်ဖြစ်စေ၊ မသိလျက်နှင့်ဖြစ် စေ ကျူးလွန်မိခဲ့သော အပြစ်ဂွန္နဟ်များအတွက် အရှင်မြတ်ထံတော်ပါး မှ လွတ်ငြိမ်းချမ်းသာခွင့်တောင်းခံပါ၏။

အလ္လာဟ်အရှင်မြတ်မှတစ်ပါး အခြားခဝပ်ကိုးကွယ်ရာ အရှင် မရှိကြောင်းနှင့် ကိုယ်တော်မြတ်(ﷺ)သည် အရှင်၏ ရစူလ်တမန်တော် ဖြစ်ကြောင်းကို ကျွန်တော်မျိုး သက်သေခံပါ၏။ လမ်းမှားမှုများ လှိုင်း တံပိုးထန်နေချိန်၊ ဆင်ခြင်တုံတရားထားရှိသူတို့က အမိုက်ခေတ်၏ ရိုက်ခတ်မှုများကို ခံစားနေရချိန်၊ မထိုက်တန်သူတို့ ဦးသျှောင်များ ဖြစ်နေချိန်၊ မိုက်မဲသူတို့၏နှလုံးသားအတွင်း ခက်ထန်မာကျောမှုများ ပြည့်နက်နေချိန်၊ အလ္လာဟ်အရှင်မြတ်က အကုသိုလ်ကျူးလွန်သူတို့ကို ချက်ချင်းအရေးမယူဘဲ ခဏတာ ဆိုင်းငံ့ထားခြင်းကြောင့် မုသားဝါဒီတို့ မောက်မာပလွှားနေချိန်တွင် အရှင်မြတ်သည် ကိုယ်တော်သခင်ကို စေ လွှတ်တော်မူခဲ့၏။ သို့ရှိရာ ကိုယ်တော်သခင်(ﷺ)က ထိုအဖျက်အ မှောင့်ကိစ္စရပ်များအားလုံးကို ဖယ်ရှားပစ်တော်မူလေသည်။ ထို့နောက် အလ္လာဟ်အရှင်မြတ်ကိုပြည့်ဝစွာ ယုံပုံအားကိုးခြင်း၏(နူးရ်) ရောင်ခြည် ဖြင့် လမ်းမှားမှု၏ အမှောင်ထုကို ဖြိုခွင်းခဲ့သည်။ ထို့နောက် ဒိဋ္ဌိတို့၏ အတွေးအခေါ်နှင့် အယူအဆများကို ထင်ရှားပြတ်သားလှသော အ ထောက်အထားများနှင့် ဖယ်ရှားတော်မူခဲ့လေသည်။ ထိုအခါ အစ္စလာမ် သာသနာတော်ထဲသို့ လူများ အုပ်စုလိုက်အုပ်စုလိုက် ဝင်ရောက်လာ ကြသည်။ ထို့ပြင် ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်၏ မွန်မြတ်လှသော ဟာရမ်ပရဝဏ်ထဲသို့ ဟဂ်ျပြုလုပ်သူများအဖြစ်နှင့် သော်လည်းကောင်း၊ အွမ်မ္ရာဟ်ပြုလုပ်သူများအဖြစ်နှင့်သော်လည်းကောင်း လာရောက်ခိုလှုံ ကြလေ၏။ ကိုယ်တော်မြတ်(ﷺ)နှင့် ကိုယ်တော်သခင်၏ မိသားစုများ

အပေါ်ဝယ် အလွှာပဟ်အရှင်မြတ်ဘကက်တော်မှ ကောင်းချီးမင်္ဂလာများ ခညောင်းပါစေ။

အိုး....အီမာန်ရှင်အပေါင်းတို့....အသင့်တို့ မြင်တွေနေရသော အရာများနှင့် သွားလေသူတို့တွင် အသင်တို့အတွက် သံဝေဂယူဖွယ်ရာများစွာရှိပေသည်။ မကြာမီ မုချအသင်တို့သည် မြောက်မြားလှသော ဒုက္ခများနှင့် ကြုံကြိုက်ရမည် ဖြစ်သည်။ ထိုဒုက္ခများအပြီး အသင်တို့သည် မရဏသေခြင်းတရား၏ အရသာကို မြည်းစမ်းရမည် ဖြစ်သည်။ မုချသေခြင်းတရားကို သတိရခြင်းသည် အသင်တို့ကို အပြစ်များမှ ရှောင်ကျဉ်ရန် အကြောင်းခံတစ်ခုအဖြစ် လုံလောက်သကဲ့သို့ အပျော်အပါးများကို ရပ်တန့်စေပြီး မိမိတို့ကိုယ်မိမိ ပြစ်တင်ကာ ဝမ်းနည်းပူဆွေးသောကရောက်စေသော အကြောင်းခံတစ်ခုအဖြစ်လည်း လုံလောက်ပေသည်။ သတိချပ်ကြပါလေ.......သေခြင်းတရားသည် မိမိကို မေ့လျော့နေသူအား သတိတရ ရှိနေပေမည်။ ၎င်းသည် သူ့၏ ဆိုးရွားလှသော အသံနှင့် ၄က်ဆိုးထိုးသကဲ့သို့ လူသားများကို ခြိမ်းခြောက်မည် ဖြစ်သည်။ ထို့နောက် ကမ္ဘာ့ နေရာအနှံ့ကိုလှည့်ပတ်ပြီး သက်ရှိတိုင်းကို မရဏသေခြင်းတရား၏ ခါးသီးမှုကို မြည်းစမ်းစေမည် ဖြစ်သည်။

လူသားက အပျော်အပါးများတွင် မွေ့လျော်နေချိန်၊ မိမိ၏ အမြဲနေထိုင်ရမည့် ဌာနီကိုမေ့လျော့နေချိန်မှာပင် အားအင်ချည့်နဲ့မှုများ ၎င်းဆီသို့ ရုတ်တရက် ရောက်ရှိလာပေလိမ့်မည်။ ယခင်က သန်မာလှသော ၎င်း၏ ကိုယ်ခန္ဓာအစိတ်အပိုင်းသည် ၎င်းကို သစ္စာဖောက်သွား

ပေလိမ့်မည်။ ထိုအခါ ကျွမ်းကျင်ဆရာဝန်များ၏ဆေးစာက ၎င်းအတွက် အကျိုးပြုနိုင်မည် မဟုတ်တော့ပေ။ တစ်ဆက်တည်းမှာပင် ၎င်း၏ ခြေလှမ်းများက နှေးကွေးလာလိမ့်မည်။ ထိုနောက် ၎င်း၏ ဣန္ဒြေ၊ အာရုံများက တဖြည်းဖြည်း မှေးမှိန်လာလိမ့်မည်။ နောက်ဆုံးတွင် ၎င်းသည် သေခြင်းတရား၏ အကျဉ်းသားဖြစ်သွားပေလိမ့်မည်။ ထိုအခါ ၎င်း၏ ပတ်ဝန်းကျင်တွင်ရှိကြသော မျက်ဝန်းအစုံများမှ မျက်ရည်များ စီးကျလာပေလိမ့်မည်။ ထို့နောက် ၎င်းသည် သွားလေသူတို့ လမ်းစဉ်အတိုင်း လျှောက်လှမ်းကြောင်းကို အားလုံးက ဝိုင်းဝန်းပြောဆိုကြပေလိမ့်မည်။ ၎င်းခင်မျာမှာ ပြောဆိုသူတို့ကို အဖြေပေးနိုင်မည် မဟုတ်သကဲ့သို့ မိမိပြုခဲ့သော ကောင်းမှုမကောင်းမှုများကို ပိုက်ထွေး၍ ရှေ့တွင်လာရှိမည့် စာရင်းအင်းစစ်ဆေးမည့် နေ့ကို စောင့်မျှော်နေရန်မှအပ အခြားရွေးချယ်စရာ လမ်းမရှိပေ။ ထိုအချိန်တွင် ၎င်း၏ အရင်းနှီးဆုံး မိတ်ဆွေနှင့် ဆွေမျိုးများက ၎င်းသူ၏ ကဗရ်ကွင်းကို မြေကြီးများနှင့် ဖုံးအုပ်နေပေလိမ့်မည်။ ထိုနောက်တွင် ၎င်းအတွက် အသင်တို့မကြားရသော ကြောက်မက်ဖွယ်မြည်ဟီးသံများနှင့် အသင်တို့မေ့လျော့နေကြသော ပြန်လည်ရှင်ပြန်ထရမည့်နေ့ပင် ရှိလေသည်။ ယခုအခါ ထို့နေ့၏ နမိတ်လက္ခဏာများသည်လည်း ပေါ်လွင်လာပြီး ဖြစ်သည်။ ထို့ကြောင့် အသင်တို့နှင့် ၎င်းကေယာမသ်နေ့ ကြားတွင် ဟဇရသ်အစ္စရာဖီးလ် (ﷺ)၏ စူးရ် တပိုးမှုတ်ခြင်းသာ ကျန်ရှိပေတော့သည်။ ဤတပိုးကြီး မှုတ်ပြီးသောခါ ကျန်ရှိသူများနှင့် သွားလေသူတို့အားလုံးသည် ဆုံဆည်း

ရမည် ဖြစ်သည်။ ထို့နောက် မိမိတို့၏ အအ်မလ်များနှင့် အညီ ခံစား၊ စံစားရမည်ဖြစ်သည်။ မိမိ ဆုံးဖြတ်ချက်ကို ခိုင်မာအောင်ပြု၍ တမလွန် ခရီးအတွက် ရိက္ခာ ကြိုတင်ပို့ဆောင်ခဲ့သူကို အလ္လာဟ်အရှင်မြတ် ကရုဏာသက်တော်မူပါစေ။ အမှန်တကယ် စူးရှ်တပိုးမှုတ်ရန်အတွက် ကောင်းကင်တမန်ကြီးက စိုင်းပြင်းနေလေပြီဖြစ်သည်။ အလ္လာဟ်အရှင် ကျွန်ုပ်တို့အားလုံးကို တမလွန်ခရီးအတွက် ကြိုတင်ပြင်ဆင်သူများ အဖြစ်ပြုပေးသနားတော်မူပြီး အရှင်၏ အမိန့်နာခံမှုတွင် အားသွန်ခွန်စိုက် ကြိုးပမ်းသူများအဖြစ် ပြုပေးသနားတော်မူပါစေ။

သီကုံးထားသော စာသားများအနက်မှ မွန်မြတ်လှပဆုံး စာသားမှာ ကုရ်အာန်ကျမ်းတော်မြတ်လာ အာယသ်တော်ပင် ဖြစ်ပါသည်။ "စင်စစ်သော်ကား မိုးကောင်းကင်များ၌ ရှိကုန်သော လျှို့ဝှက်ချက်များသည်လည်းကောင်း၊ ပထဝီမြေ၌ရှိကုန်သော လျှို့ဝှက်ချက်များသည်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်နှင့်သာ သက်ဆိုင်၏။ ထိုမှတပါး ရှင်ပြန်ထမည့်ကိစ္စသည် မျက်စိတစ်မှိတ်ကဲ့သို့သာလျှင် လျင်မြန်စွာဖြစ်မည်။ ထိုသို့ အလျင်းမဟုတ်၊ စင်စစ်မှာကား (ထိုထက်ပင်) ပို၍ လျင်မြတ်စွာဖြစ်မည်။ မုချဧကန် အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို စွမ်းဆောင်နိုင်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း" (၁၆-၇၇)

## ဒုလ်ဟဇ်ဂျ်ဂျာဟ်လ

## ပထမခွသ်ဗဟ်

ချီးမွမ်းထောမနာပြုမှုအပေါင်းသည် နမားဇ်ဝတ်ပြုရာ၌ အာရုံပြုရသော တစ်ပါးတည်းသောအရှင်အတွက်သာ ဖြစ်တော်မူပါ၏။ အကြင်အရှင်မြတ်ကို စက္ခုအာရုံတို့က မြင်နိုင်စွမ်း မရှိသကဲ့သို့ နှုတ်လျှာတို့ကလည်း ထိုအရှင်ကို စကားလုံးများနှင့် ထုဆစ်ပုံဖော်နိုင်စွမ်းမရှိပေ။ ထို့ပြင် အသိဉာဏ်သည်လည်း အရှင်မြတ်ကို အတွေးအမြင်များနှင့် ပုံဖော်နိုင်စွမ်းမရှိပေ။ ဤကဲ့သို့သော အရှင်မြတ်ကို ကျွန်တော်မျိုး ချီးမွမ်းပါ၏။ ထိုအရှင်မြတ်အား ချီးမွမ်းခြင်းသည် နှစ်ဘဝနှစ်ဌာနလုံး၌ ချီးမွမ်းသူကို အမြတ်ကြီး မြတ်စေပါသည်။

အလ္လာဟ်အရှင်မြတ်မှတစ်ပါး အခြားခဝပ်ကိုးကွယ်ရာ အရှင်မရှိကြောင်းနှင့် အရှင်မြတ်သည်သာလျှင် တစ်ပါးတည်း တည်ရှိတော်မူသော၊ လိုလားတောင်းတမှု ကင်းစင်တော်မူသော အရှင်ဖြစ်ကြောင်းကို ကျွန်တော်မျိုးသက်သေခံပါ၏။ ထို့နောက် ကိုယ်တော်မြတ် (ﷺ)သည် အလ္လာဟ်အရှင်မြတ်၏ ရစူလ်စေတမန် ဖြစ်ကြောင်းကိုလည်း ကျွန်တော်မျိုးသက်သေခံပါ၏။ အလ္လာဟ်အရှင်မြတ်သည် ကိုယ်တော်သခင် (ﷺ)ကို ထင်ရှားပြတ်သားသော အထောက်အထားတစ်ရပ်အဖြစ်၊ ဒိဌိတို့ကို နေမင်းကဲ့သို့ ထင်ရှားလှသော အထောက်အထားများနှင့် ချေပသူ၊ မုအ်မင်န် သက်ဝင်ယုံကြည်သူတို့အဖို့ ကရုဏာရှင် အဖြစ်နှင့် စေလွှတ်တော်မူခဲ့လေသည်။ သို့ရှိရာ ကိုယ်တော်သခင့်ထံ ချပေးခံရသော

ကျမ်းဂန်ကြောင့် အခြားအခြားသော ကျမ်းဂန်များမေးမှိန်ကွယ်ပျောက် သွားသကဲ့သို့ ကိုယ်တော်မြတ်(ﷺ)၏ နူရ်ရောင်ခြည်တော်အောက်တွင် အခြားသောရောင်ခြည်များလည်း ကွယ်ပျောက်သွားလေသည်။ ထို့နောက် ကိုယ်တော်သခင်(ﷺ)၏ ဂုဏ်သတင်းနှင့် ပတ်သက်၍ အရဗ်များက ရွှန်းရွှန်းဝေအောင်ပြောဆိုကြသည်။ ထို့နောက် တရားဒေသနာဟောကြားသူတိုင်းကလည်း ကိုယ်တော်သခင်အကြောင်းနှင့် မိမိတို့ တရားများကို အလှဆင်ကြ၏။ ကိုယ်တော်မြတ်(ﷺ)နှင့် ကိုယ်တော်သခင်၏မိသားစုအပေါ်ဝယ် အလ္လာဟ်အရှင်မြတ်ဘက်တော်မှ ကောင်းချီးမင်္ဂလာအပေါင်း ကျရောက်ပါစေ။

အိုး....အီမာန်ရှင်တို့..... မုချမြင့်မြတ်လှစွာသော အလ္လာဟ်အရှင်မြတ်သည် နှစ်၊လများအနက်မှ အချို့သောနေ့ရက်များကို ရွေးချယ်ပြီး ၎င်းနေ့ရက်များကို အခြားအခြားသော နေ့ရက်များထက် သာပိုမွန်မြတ်စေတော်မူသည်။ ထို့နောက် ၎င်းနေ့ရက်များကို အသင်တို့ချွတ်ချော်၍ မှားယွင်းခဲ့သောအပြစ်များအတွက် ချွတ်ကယ်ပေးမည့်အရာအဖြစ် ပြုပေးသနား တော်မူထားသကဲ့သို့ အသင်တို့၏ ကောင်းမှုကောင်းရာများပြည့်ဝအောင်လုပ်ပေးသော အရာအဖြစ်လည်း ပြုပေးသနားတော်မူလေသည်။ ကေန်မုချ ဤနေ့ရက်များကို အလ္လာဟ်အရှင်မြတ်က ကုသိုလ်ကောင်းမှု ပွားများလိုသူများအတွက် အပိုဆုချီးမြှင့်ထားခြင်းပင်ဖြစ်သည်။ ထိုနေ့ရက်များကို အရှင့် အမိန့်နာခံမှုမှာပင် ကုန်ဆုံးခဲ့သူသည် အောင်မြင်မှုရရှိပြီး ထို့နေ့ရက်များတွင် အရှင့်အမိန့်ဖီဆန်သူ

သည် ဆုံးရှုံးခြင်းနှင့် ရင်ဆိုင်ရမည်ဖြစ်သည်။ ထို့ပြင် အလ္လာဟ်အရှင် မြတ်သည် လိုလားတောင်းတမှု အပေါင်းမှ ကင်းစင်တော်မူသော အရှင် ဖြစ်တော်မူလေသည်။

အိုး...အီမာန်သက်ဝင်ယုံကြည်သူအပေါင်းတို့.....ဤနေ့ရက်များ ဆိုသည်မှာ ဇွတ်ဟာစ်ဂျ်ဂျဟ်လ၏ ပထမဆုံးဆယ်ရက်ပင်ဖြစ်သည်။ ထို မွန်မြတ်လှသော နေ့ရက်များ၏ ဆယ်ရက်မြောက်နေ့ကို အလ္လာဟ် အရှင်မြတ်က ကုရ်ဘာနီအီးဒ် နေ့အဖြစ်ပြုပေးထားလေသည်။ ထို့ နောက် အလ္လာဟ်အရှင်မြတ်သည် ၎င်းမွန်မြတ်သော ဆယ်ရက်၏ နောက်တွင် မီနာမှ မက္ကာဟ်သို့ ဟာဂျီများပြန်သည့်နေ့ရက်များကို ထား ရှိတော်မူလေသည်။ ထို့နောက် အရှင်မြတ်သည် မွန်မြတ်လှသောဤ ဆယ်ရက်တွင် မိမိအားအမိန့်နာခံသူတို့၏ တောင်းဆိုမှုများ ဖြည့်ဆည်း ပေးတော်မူလေသည်။ ၎င်းနောက် ထိုနေ့ရက်များမှာ ဝေးလံသော ဒေသအသီးသီးမှ အလ္လာဟ်အရှင်မြတ်၏ အသင်းဝင်များသည် မိမိတို့ ဖခင်ကြီး ဟဇရသ်အီဗ်ရာဟီမ်(ﷺ)တောင်းဆုချွေခဲ့သော ဒိုအာကို ဖတ် ရွတ်၍ အရှင်မြတ်၏ အိမ်တော်သို့ လာရောက်ကြလေသည်။ တစ်ချိန် က ဤကဲ့သိုနေ့ရက်များတွင် အလ္လာဟ်အရှင်မြတ်သည်ဟဇရသ် အီဗ်ရာဟီမ်(ﷺ)အား မိမိသားကို ဇဗဟ်ပြုရန် အမိန့်ပေး၍ စမ်းသပ် တော်မူခဲ့လေသည်။ ထိုမျှမက ဤလုပ်ရပ်ကို ဟဇရသ်အီဗ်ရာဟီမ် ကိုယ်တိုင်ပြုလုပ်ရန် အမိန့်ပေးခဲ့လေသည်။ ထိုအခါသခင်က အလ္လာဟ် အရှင်မြတ်၏ အမိန့်တော်ကို တစ်သဝေမတိမ်း လိုက်နာရန် ဆုံးဖြတ်ပြီး

မိမိ၏သောကမီးကို အလ္လာဟ်အရှင်၏ကျေနပ်နှစ်သက်မှုနူရ်ဖြင့် ငြိမ်း သတ်ခဲ့သည်။ ထို့နောက် မိမိသားကို အလ္လာဟ်အရှင် အမိန့်ပေးတော်မူ ထားသည့် နေရာဆီသို့ခေါ်ဆောင်လာခဲ့၏။ ထို့နောက် မိမိသားကို အလ္လာဟ်အရှင်၏ အမိန့်နှင့် ပတ်သက်၍ပြောပြလေ၏။ ထိုအခါ သား ဖြစ်သူကလည်း အရှင်၏ အမိန့်ကို နာခံရန် အဆင်သင့်ဖြစ်နေလေ၏။ ထို့နောက် နှစ်ဦးစလုံးသည် အရှင်၏ အမိန့်ကို ကျေပွန်ရန်ယတိပြတ် ဆုံးဖြတ်လိုက်ကြ၍ ဟဇရသ်အီဗ်ရာဟီမ်(ﷺ)က မိမိသားတော်ကို မြေ ကြီးပေါ်သို့ မှောက်လျက် လှဲခဲ့လေသည်။ ထို့နောက် သခင်သည် အလ္လာဟ်အရှင်မြတ်ကို ချီးမွမ်းထောမနာပြုလျက် မိမိ၏ လက်ယာဖြင့် ဓားကို ကိုင်ကာ သားဖြစ်သူကို ဇဗဟ်ပြုရန် ပြင်လေ၏။ ထိုအခါ ကောင်းကင်တမန်များက ၎င်းတို့သားဖနှစ်ဦးအတွက် ဒိုအာများ တောင်းပေးနေလေသည်။ ထိုအချိန်တွင် ကောင်းကင်မှ မိုးများရွာချလာ သကဲ့သို့ ကမ္ဘာမြေကြီးသည်လည်း တဆတ်ဆတ်လှုပ်ရမ်း လာတော့ ၏။ အမှန်တကယ်တွင် အလ္လာဟ်အရှင်မြတ်သည် ဤအချင်းအရာမှ ဟဇရသ်အီဗ်ရာဟီမ်၏ မှန်ကန်သော ဆုံးဖြတ်ချက်နှင့် ပတ်သက်၍ အရာခပ်သိမ်းကို ပြသခဲ့ခြင်းပင်ဖြစ်သည်။ သို့ဖြစ်ပေရာ ကရုဏာအ ပေါင်းနှင့် ပြီးပြည့်စုံတော်မူသော အရှင်သည် ဤသို့ အသံပြုတော်မူလေ သည်။ "အိုး…အီဗ်ရာဟီမ်….ကေန်မလွဲ အသင်သည် အိပ်မက်ကို အမှန် အကန် ဆောင်ရွက်ခဲ့လေပြီ။ ကေန်အမှန် ငါအရှင်သည် သူတော် ကောင်းတို့ကို ဤနည်းအတိုင်းပင် အစားပေးလေ့ရှိတော်မူ၏" ထို့

နောက် အရှင်၏အမိန့်ဖြင့် ဟဇရသ်ဂျဗ္ဗရာအီးလ်(ﷺ)က တမန်တော် အီဗ်ရာဟီမ်၏ သားတော်နေရာတွင် အစားထိုးရန် သားကောင်တစ်ကောင်ကို ယူဆောင်လာခဲ့လေ၏။ ထို့နောက် တမန်တော် အီဗ်ရာဟီမ် (ﷺ)က ဤသားကောင်ကို 'အလ္လာဟ်ဟုအက်ဗရ်'ဟု သက်ဗီရ်ရွတ်ဆိုကာ ဇဗဟ်ပြုခဲ့လေ၏။ ၎င်းနောက် အလ္လာဟ်အရှင်မြတ်သည် ဤစွန့်သယ်တော်ကို သခင့်၏ သားစဉ်မြေးဆက် ရှင်သန်စေပြီး ကျွန်တော်တို့ကိုလည်း ဤစွန့်သယ်တော်အား အကောင်အထည်ဖော် ဆောင်ရွက်ခွင့်ကိုချီးမြှင့်တော်မူထားပေသည်။

အိုး.... မုအ်မင်န်တို့..... အလ္လာဟ်အရှင်မြတ်က ထူးကဲမွန်မြတ်မှုချီးမြှင့်ထားသော ဤနေ့ရက်များကို အသင်တို့သည် မကောင်းမှု၊ အကုသိုလ်များကို ရှောင်ကျဉ်ခြင်းဖြင့် ဂုဏ်ပေးအလေးထားကြလေကုန်။ ထို့နောက် အသင်တို့သည် ကုရ်ဘာနီပြုရာတွင်လည်း သွားလေသူနှင့် ကျန်ရှိသူတို့အားလုံးအတွက် ရည်စူး၍ ပြုကြလေကုန်။ အထူးသဖြင့် အသင်တို့အားလုံးသည် ဤနေ့ရက်များတွင် အပြစ်ဂွန္နဟ်မှ ရှောင်ကျဉ်ကြကုန်။ ထို့နောက် အသင်သည် အလ္လာဟ်အရှင်မြတ်၏ အထိမ်းအမှတ်တော်များကို ရိုသေလေးစားကြပါလေ။ မုချ အလ္လာဟ်အရှင်မြတ်၏ အထိမ်းအမှတ်တော်များကို ရိုသေလေးစားခြင်းသည် စိတ်နှလုံးသားအတွင်းမှ ရိုသေလေးစားလိုက်နာခြင်းပင်ဖြစ်သည်။ အလ္လာဟ်အရှင်ကျွန်တော်တို့အားလုံးကို အရှင် နှစ်သက်သော အအ်မလ်များကို ပြုကျင့်နိုင်စွမ်းနှင့် ကျွန်တော်တို့၏ မပြောပလောက်သော အအ်မလ်

များကို အရှင်၏ ကရုဏာသက်သက်ဖြင့်လက်ခံတော်မူပါ။ ထို့နောက် ကျွန်တော့်တို့ကို အရှင်၏ကရုဏာမှ လက်မဲ့ဖြစ်ရသူများအဖြစ်နှင့် ပြုတော်မမူပါနှင့်..... အိုး....အလ္လာဟ်အရှင်မြတ်...

ကျင့်ကြံအားထုတ်သူတို့အတွက် လိုက်နာရန် အကောင်းမွန်ဆုံးသော အရာမှာ ကျွန်တော်တို့ခ၀ပ်ကိုးကွယ်ကြသော အလ္လာဟ်အရှင်မြတ်၏မုဟမ္မဒ်ပါင်္ဂတော်ပင် ဖြစ်သည်။ "ထိုမှတပါး ငါအရှင်မြတ်သည် (နဗီတမန်တော်) မူစာအား ညဥ့်ပေါင်းသုံးဆယ် ချိန်းချက် တော်မူခဲ့လေသည်။ ထို့နောက် ငါအရှင်မြတ်သည် ယင်းညဥ့်ပေါင်းသုံးဆယ်ကို ဆယ်ညဥ့်ဖြင့် (ထပ်လောင်း၍) ဖြည့်စွက်တော်မူခဲ့လေသည်။ သို့ဖြစ်ပေရာ ထို (နဗီတမန်တော်)မူစာ၏အရှင် သတ်မှတ်တော်မူသောအချိန်သည် ညဥ့်ပေါင်းလေးဆယ် ပြည့်သွားခဲ့လေ၏။ ၎င်းပြင် (နဗီတမန်တော်)မူစာသည် မိမိနောင်တော်(နဗီတမန်တော်)ဟာရူန်အား (ဤသို့)ပြောဆိုမှာကြားခဲ့လေသည်။ (အို-နောင်တော်) အသင်သည် ကျွန်ုပ်၏ အမျိုးသားတို့တွင် ကျွန်ုပ်အားကိုယ်စားပြု၍ နေရစ်ခဲ့ပါ။ ထို့ပြင် အသင်သည် (၎င်းတို့အား) ပြုပြင်၍ပေးပါ။ သို့ရာတွင် အသင်သည် အကျိုးပျက်စီးအောင် ပြုလုပ်သူတို့၏ လမ်းစဥ်ကို မလိုက်ပါလေနှင့်" (၇-၁၄၂)

## ဇွလ်ဟာစ်ဂျ်ဂျဟ်လ

## ဒုတိယခွဲသ်ဗဟ်

ချီးမွမ်းထောမနာ ပြုခြင်းအပေါင်းသည် အချို့နေ့ရက်များကို အချို့နေ့ရက်များထက် သာပိုမွန်မြတ်အောင် ပြုထားတော်မူသော အလ္လာဟ်အရှင်မြတ် တစ်ပါးတည်းအတွက်သာ ဖြစ်၏။ ထိုအရှင်မြတ်သည် အမိန့်ပညတ်ချက်များကို ပြဋ္ဌာန်းတော်မူသော အရှင်ဖြစ်သကဲ့သို့ လူသားကို ၎င်းအမိန့်ပညတ်တော်များအား ကျေပွန်ရန် တာဝန်ပေးတော်မူသော အရှင်လည်းဖြစ်တော်မူ၏။ ထို့နောက် အရှင်မြတ်သည် လူသား၏ကိုယ်ခန္ဓာ အစိတ်အပိုင်းကို အချိုးအစား ပြေပြစ်အောင် ဖန်ဆင်းတော်မူသော အရှင်ဖြစ်ပြီး အရာခပ်သိမ်းကို အကြွင်းမဲ့ သိရှိတော်မူသော အရှင်လည်းဖြစ်တော်မူ၏။ ထို့ပြင် အရှင်မြတ်ကို မည်သည့် စကားရပ်နှင့်မျှ ပုံဖော်၍မရသည်အပြင် အရှင်မြတ်၏ ဖန်ဆင်းရှင်ဖြစ်ခြင်းတွင်လည်း မည်သည့်အပြောင်းအလဲမျှ မရှိပေ။ ထိုသို့သော အရှင်မြတ်ကို ကျွန်ုပ်တို့ ချီးမွမ်းထောမနာ ပြုပါ၏။

အလ္လာဟ်အရှင်မြတ်မှတပါး အခြားခဝပ်ကိုးကွယ်ရာအရှင် မရှိကြောင်းနှင့် ကိုယ်တော်မြတ်(ﷺ) သည် အရှင်၏ ရစူလ်စေတမန် ဖြစ်တော်မူကြောင်းကို ကျွန်တော်မျိုး သက်သေခံပါ၏။ အလ္လာဟ်အရှင်မြတ်သည် ကိုယ်တော်မြတ်(ﷺ)ကို အဖျက်အမှောင့်လုပ်ငန်းများ တွင်ကျယ်နေချိန်၊ လူသားတို့၏ အတွေးများထဲတွင် အရှင်မြတ်ကို ပုန်ကန်လိုစိတ်များ လွှမ်းမိုးနေချိန်တွင် စေလွှတ်တော် မူခဲ့လေသည်။ သို့ရှိရာ

ကိုယ်တော်မြတ်(ﷺ)က အီမာန်၏ကြိုးကို ခိုင်မြဲအောင်ပြုတော်မူလေသည်။ ထို့နောက် လူတို့အား ရှင်းလင်းပြတ်သားသော အထောက်အထားတော်များကို ချပြတော်မူလေသည်။ ထို့နောက် ရှိုင်သွာန်မိစ္ဆာနှင့် ၎င်း၏အပေါင်းအပါများကိုလည်း သေးသိမ်အောင် ပြုတော်မူလေ၏။ ကိုယ်တော်သခင်(ﷺ)နှင့် ကိုယ်တော်သခင်(ﷺ)၏ အိမ်သူအိမ်သားများ အပေါ်ဝယ် အလ္လာဟ်အရှင်မြတ်ဘက်တော်မှ ကောင်းချီးမင်္ဂလာ အပေါင်းကျရောက်ပါစေ။

အိုး..... အီမာန်ရှင်အပေါင်းတို့.... မကောင်းမှုအကုသိုလ်များပြုကျင့်ခြင်းမှ တက်စွမ်းနိုင်သမျှ ရှောင်ကျဉ်ခြင်းသည် လူသားအတွက် လုပ်ဆောင်ရန် အထိုက်သက်ဆုံးသော လုပ်ရပ်ဖြစ်သကဲ့သို့ ပြုကျင့်ခဲ့သော မကောင်းမှုများကို ကောင်းမှုကုသိုလ်များနှင့် အစားထိုးခြင်းသည်လည်း လူသားအတွက် အလွန်ပင် အကျိုးထူးရစေမည့်လုပ်ရပ်ပင်ဖြစ်သည်။ ထို့ကြောင့် အသင်တို့သည် ဤထူးကဲမွန်မြတ်သော ရက်ကြီးဆယ်ရက်၏ကျန်ရှိနေသော ရက်များတွင် ကုသိုလ်ကောင်းမှုများကို သိမ်းကျုံးယူကြကုန်။ မုချ ဤနေ့ရက်များသည် အလ္လာဟ်အရှင့်ထံတော်ပါးတွင် အလွန်ပင်ထူးကဲမွန်မြတ်လှသော နေ့ရက်များဖြစ်သည်။ ထို့နောက် မနက်ဖန်တွင် အသင်တို့သည် အာရဖဟ်ကွင်းပြင်တွင် စုရုံးကြမည် ဖြစ်သကဲ့သို့ ထိုကွင်းပြင်ကျယ်ကြီးသည်လည်း တစ်ပါးတည်းသော အရှင်ထံမှာ တောင်းဆုခြွေကြသော အသံများနှင့် မည်ဟီးနေမည် ဖြစ်သည်။ ထိုအချိန်တွင် အလ္လာဟ်အရှင်မြတ်သည် မိုးကောင်း

ကင် ခုနှစ်ထပ်ပေါ်၌ အသင်တို့အတွက် ဆုလာဘ်များချီးမြှင့်ရန် မလာ အေကာဟ် ကောင်းကင်တမန်များကို အမိန့်ပေးတော်မူလေ၏။ ထို့နောက် အလ္လာဟ်အရှင်မြတ်သည် မိမိကိုအမိန့်နာခံသော ဤလူအုပ်စုကြီးကို ရှုတော်မူ၍ကောင်းကင်တမန်များ၏ ရှေ့တွင် ဂုဏ်ယူတော်မူ၏။ ထို့နောက် အလ္လာဟ်အရှင်မြတ်သည် မိမိ အမိန့်ကိုဦးထိပ်ပန်ဆင်ကာ စုရုံးနေကြသော သူများအပေါ် ရဟ်မသ်မိုးများ ရွာသွန်းဖြိုးစေတော်မူလေသည်။ ထို့ပြင် အရှင်မြတ်သည် မိမိထံတော်ပါးရှိကောင်းကင်တမန်များကို ဤသို့ မိန့်တော်မူလေ၏။ "အသင်တို့သည် ငါအရှင်မြတ်၏ ကျေးကျွန်တို့ အမိန့်နာခံပုံကို မျက်ဝါးထင်ထင် တွေ့မြင်ကြပြီလော။ ၎င်းတို့သည် မိမိတို့ နေထိုင်ရာ အသိုက်အမြုံများကို စွန့်လွှတ်၍ ၎က်တို့က မိမိတို့ အသိုက်ကို ပြန်ကြသည့်အလား ငါအရှင့်အထံတော်ပါးကို အစီးအနင်းဖြင့် တစ်မျိုး၊ ခြေလျင်ဖြင့် တစ်ဖုံ လာရောက်ကြလေ၏။ ထို့ပြင် ဝေးလံခေါင်ပါးသော အရပ်များမှ အခက် အခဲပေါင်းစုံကို ကျော်လွှား၍ ငါအရှင့်ဆီသို့ လာရောက်ကြသည်။ ထို့နောက် ၎င်းတို့သည် ငါအရှင်မြတ်၏မြေပထဝီကို သက်ဗီးရ်သံများနှင့် ဖြည့်တင်းလိုက်လေသည်။ ထို့ပြင် (လဗ္ဗိုက်က အလ္လာဟ်ဟွမ္မ လဗ္ဗိုက်က်-) ဟုရွတ်ဆို၍ ဤသို့ ကြွေးကြော်ကြလေသည်။ "အရှင့်ကျေးကျွန်များဖြစ်ကြသော ကျွန်တော်မျိုးတို့သည် ယခု အရှင့်ရှေ့တော်မှောက်တွင် ခစားရောက်ရှိနေပါသည်။ ကျွန်တော်မျိုးတို့သည် အရှင်မြတ်ပေးသနားတော်မူမည့်အရာများကို မျှော်ကိုးနေကြသူများပါ။ ထို့နောက် ကျွန်

တော်မျိုးတို့သည် အရှင်မြတ်ပေးမည့်ပြစ်ဒဏ်များကို စိုးရွံ့၍ အရှင်မြတ်ထံလာရောက် ခိုလှုံကြသူများပါ" ငါအရှင်မြတ်သည် အသင်တို့ကောင်းကင်တမန်များကို သက်သေထား၍ မိန့်တော်မူမည်။ ငါအရှင်၏ ချေ့သည်တော်များဖြစ်ကြသော ၎င်းသူတို့ကို ငါအလ္လာဟ်အရှင်မြတ်သည် ချေ့ဝတ်ပြုမည်ဖြစ်သကဲ့သို့ ၎င်းသူတို့အပေါ်၌လည်း ငါအရှင်သည် ကျေးဇူးပြုမည် ဖြစ်သည်။ ထိုမျှမက ဂျန္နသ်သုခဘုံကို ၎င်းတို့အတွက် အမြဲနေထိုင်ရာ ဌာနီအဖြစ် ငါအရှင်မြတ် ပြုပေးသနားတော်မူမည် ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်သည် အလွန်ကတိတည်တော်မူသော အရှင်ဖြစ်တော်မူပေသည်။ အကယ်၍ အသင်တို့သည် အကြောင်းပြချက်များပေးပြီး နောင်နှစ်ဆိုသော အတွေးများနှင့် ဤမွန်မြတ်လှသော နေရာကိုမလာဘဲ မိမိနေထိုင်ရာဌာနီမှာပင် အချိန်များဖြုန်းနေမည်ဆိုလျှင် ယခုအချိန်မှစ၍ မိမိတို့၏စိတ်တွင်း၌ဖြစ်တည်နေသော အညစ်အကြေးများကို ချက်ချင်းသန့်စင်လိုက်ပါ။ ထို့နောက် မိမိတို့ နှလုံးသည်းပွတ်များကို နောင်တရကြမည့်နေ့(ကေယာမသ်)ကို သတိရတသခြင်းများနှင့် ဖြည့်တည်းကြလေကုန်။ ထို့ပြင် အရာခပ်သိမ်းကို အကြွင်းမဲ့သိရှိတော်မူသော အလ္လာဟ်အရှင်မြတ်ထံတော်ပါး၌ လွတ်ငြိမ်းချမ်းသာခွင့်ကို တောင်းခံကြလေကုန်။ အသင်တို့သည် အလ္လာဟ်အရှင်မြတ်ကို မေ့လျော့သူများ မဖြစ်ကြလေနှင့်။ ထို့ကြောင့် အလ္လာဟ်အရှင်မြတ်သခင်သည်လည်း ၎င်းတို့အား ကိုယ့်ကိုယ်ကိုပင် မေ့လျော့ကြသူများ အဖြစ်ပြုတော်မူလိုက်လေသည်။ အလ္လာဟ်အရှင်

ကျွန်တော်တို့အားလုံးကို တရားဒေသနာတော်များမှ သံဝေဂတရားယူ၍ အရှင်မြတ်၏ဝတ္တရားများကို ကျေပွန်သူများအဖြစ် ပြုပေးသနားတော်မူပါစေ။ ထို့နောက် အရှင်မြတ်သည် ကျွန်တော်မျိုးတို့အပေါ် ဗရ်ကသ်မင်္ဂလာအပေါင်း ချပေးသနားတော်မူပါစေ။

ဖတ်ရွတ်သရဇ္ဈာယ်မှုကြောင့် နှလုံးသားတို့တည်ငြိမ်အေးချမ်းရသော အရာများအနက်မှ အမွန်မြတ်ဆုံးသော အရာသည် အရာခပ်သိမ်းကို စီမံတော်မူသော အလ္လာဟ်အရှင်မြတ်၏ အာယသ်တော်များဖြစ်သည်။ "၎င်းပြင် အသင်သည် လူခပ်သိမ်းတို့အား (ထူးမြတ်လှစွာသော ယင်းအိမ်တော်သို့ လာရောက်ဖူးမြော်)ဟဂ္ဂျ်ပြုကြရန် ကြေညာ (ဖိတ်ခေါ်)ပါလေ။ (ထိုအခါ)လူတို့သည် အလွန်ဝေးလံသော လမ်းခရီးတိုင်းမှ ခြေကျင်လည်းကောင်း၊ ကျုံလှီပိန်ချုံးသောကုလားအုတ် အသီးသီးပေါ်၌ စီးနင်း၍လည်းကောင်း၊ အသင့်ထံသို့ လာရောက်ကြပေမည်။ မိမိတို့အတွက် အကျိုးကျေးဇူးရှိရာများသို့ ရောက်ရှိကြအံ့သောငှာလည်းကောင်း၊ အလ္လာဟ်အရှင်မြတ်၏နာမံတော်ကို ထိုအရှင်မြတ်က မိမိတို့အား ချီးမြှင့်ပေးသနားတော်မူခဲ့သော ခြေလေးချောင်း တိရစ္ဆာန်အပေါ်၌ သတ်မှတ်ထားသော နေ့ရက်များတွင် (ရွတ်ဖတ်) တသကြအံ့သောငှာလည်းကောင်း၊ ထို့နောက် (တမန်တော်မြတ်၏ တပည့်သားတို့၊) အသင်တို့သည်လည်း ယင်းတိရစ္ဆာန်များအနက်မှ မိမိတို့ ကိုယ်တိုင်လည်း စားသုံးကြလေကုန်။ မရှိ ဆင်းရဲသော ဒုက္ခိတများအားလည်း ကျွေးမွေးကြလေကုန်။ ထို့နောက် ၎င်းတို့သည် ကြေးညှော်ကို

(သုတ်သင်)ပယ်ရှားကြရမည်။ ထို့ပြင် မိမိတို့၏ (တာဝန်များ) အစီအစဉ်များကို ပြီးဆုံးအောင်ဆောင်ရွက်ကြရမည်။ ထိုမှတစ်ပါး ရှေးကျသော အိမ် (ကအ်ဗဟ်ကျောင်း) တော်ကို သွဝါးဖ် လှည့်ကြရမည် ဖြစ်ချေသတည်း" (၂၂-၂၉)